# ဘိက္ခုဓမ္မပိယ

## လှိုက်လှဲစွာကြိုဆိုပါသည် နှင့်

အခြားဆောင်းပါးများ

Design Pann Zan

# ဘိက္ခုဓမ္မပိယ

## လိုက်လုံ့ရွာကြီးဆိုပါသည် နှင့်

အခြားဆောင်းပါးများ

# အပ္ပမာဒေါ အမတံ ပဒံ

ကုသိုလ်ကောင်းမှုတို့၌ မမေ့မလျော့ခြင်းသည်
သေခြင်းကင်းရာ နိဗ္ဗာန်၏အကြောင်းဖြစ်သည်။




အမှတ်(၁၈၉)၊ ရွှေဝါထွန်း(၂)လမ်း၊ (၃၃)ရပ်ကွက်
ဒဂုံမြို့သစ်(မြောက်ပိုင်း)၊ ရန်ကုန်။
ဖုန်း-၅၈၄၇၃၈

# လိုက်လဲ့စွာ ကြိုဆိုပါသည် နှင့် အခြားဆောင်းပါးများ

စာမူခွင့်ပြုချက် – ၅၈၆/၂၀၀၄ (၉)
အဖုံးခွင့်ပြုချက် – ၅၅၃/၂၀၀၄ (၉)



**ပုံနှိပ်ခြင်း**
ပထမအကြိမ် – ၂၀၀၄–ခုနှစ်၊ စက်တင်ဘာလ
**အုပ်ရေ ၁၀၀၀**



**အဖုံးနှင့်အတွင်းပုံနှိပ်**
ရွှေနိုင်ငံပုံနှိပ်တိုက် ၊ ဦးမောင်မောင်လှ၊ (မြဲ–၀၅၇၄၅)
အမှတ်–၉၀ (စီ) ၊ ကမ္ဘာအေးဘုရားလမ်း၊ ရန်ကုန်မြို့ ။



**ထုတ်ဝေသူ**
ဦးမြသန်းစံ (ယာယီ–၇၃၂) ၊ အပ္ပမာဒစာစဉ်
အမှတ်(၁၈၉)၊ ရွှေဝါထွန်း(၂)လမ်း၊ (၃၃)ရပ်ကွက်၊
ဒဂုံမြို့သစ်မြောက်ပိုင်းမြို့နယ်၊ ရန်ကုန်မြို့။ ဖုန်း–၅၈၄၇၃၈



**မျက်နှာဖုံးပန်းချီ**
ပန်းချီ ကိုပန်းစျာန်



**စီစဉ်ဖြန့်ချိသူ**
ဒေါ်ညိုညိုဝင်း



**တစ်ပြည်လုံးဖြန့်ချိရေး**
အပ္ပမာဒဓမ္မရသစာပေတိုက်



**တန်ဖိုး**
(ဓမ္မဒါန)

အပ္ပမာဒစာစဉ်

# လိုက်လုပ်စွာ ကြိုဆိုပါသည်
# နှင့်
# အခြားဆောင်းပါးများ

# ဘိက္ခုဓမ္မပိယ




အပ္ပမာဒဓမ္မရသစာပေတိုက်
အမှတ်(၁၇၉)၊ ရွှေဝါထွန်း(၂)လမ်း၊ (၃၃)ရပ်ကွက်
ဒဂုံမြို့သစ်(မြောက်ပိုင်း)၊ ရန်ကုန်။
ဖုန်း-၅၇၄၇၃၇

( ၃၀ ၊ စက်တင်ဘာ ၊ ၂၀၀၄ )




## ဗုဒ္ဓံ သရဏံ ဂစ္ဆာမိ

မြတ်စွာဘုရားကို အားကိုးရာဟူ၍ ယုံကြည်ဆည်းကပ်ပါ၏ဘုရား။

## ဓမ္မံ သရဏံ ဂစ္ဆာမိ

မြတ်စွာဘုရား၏ တရားတော်ကို အားကိုးရာဟူ၍
ယုံကြည်ဆည်းကပ်ပါ၏ဘုရား။

## သံဃံ သရဏံ ဂစ္ဆာမိ

မြတ်စွာဘုရား၏ တပည့်သား သံဃာတော်မြတ်အပေါင်းကို
အားကိုးရာဟူ၍ ယုံကြည်ဆည်းကပ်ပါ၏ဘုရား။




သဗ္ဗဒါနံ ဓမ္မဒါနံ ဇိနာတိ

အလှူအားလုံးတို့တွင် တရားအလှူသည်
အမြတ်ဆုံးဖြစ်၏

# မာတိကာ





ဒေါက်တာ ဘဒ္ဒန္တဓမ္မပိယ သာသနဓဇဓမ္မာစရိယ
Ph.D. (Eastern Philosophy)




နှစ်ဖက်မိဘများဖြစ်ကြသော

ဦးရွှေမောင်+ဒေါ်တင်တင်ရီ

ဦးကျော်စိန်+ဒေါ်ညွန့်တင် တို့အား အမှူးထား၍

သားသမီးများဖြစ်ကြသော

ကိုလွင်ဦး+မရူစန်

ညီမ-မစန်းစန်းမြင့်

သမီးငယ် Ciandra Oo တို့ ကောင်းမှု။

(Tracy, CA. USA)




## အမေရိကန်ပြည်ထောင်စု၊ ဖရီးမောင့်မြို့
## မေတ္တာနန္ဒဝိဟာရဓမ္မရိပ်သာဆရာတော်
## ဒေါက်တာဓမ္မပိယ (Ph.D)၏ ထေရုပ္ပတ္တိအကျဉ်း။



- ဆရာတော်လောင်းလျာကို စစ်ကိုင်းတိုင်း၊ ရွှေဘိုခရိုင်၊ တန့်ဆည်မြို့နယ်၊ ရွှေနားတောင်းကျေးရွာတွင် ဖခင်ဦးထွန်းစ၊ မိခင်ဒေါ်သိန်းရီတို့မှ ၁၃၁၇-ခုနှစ် (၁၉၅၅)၌ မွေးဖွားခဲ့။ မွေးချင်း (၇)ယောက်အနက် တတိယမြောက်သားရတနာဖြစ်ပါသည်။

- ကန့်ဘလူမြို့နယ်၊ ရေကြည်ရွာ မူလတန်းကျောင်းတွင် (၄)တန်းအောင်မြင်သည်အထိ သင်ကြားခဲ့။

- (၉)နှစ်သားတွင် သာမဏေဝတ်ခဲ့ပြီး ကိုရင်ဝတ်ဖြင့် လောကုတ္တရာစာပေများကို ဆက်လက်သင်ကြားခဲ့။

- အသက်(၂၀)အရွယ်တွင် ရဟန်းခံပြီးနောက် လောကုတ္တရာစာပေများကို ရေဦးမြို့၊ မင်္ဂလာရာမတိုက်၊ ပဲခူးမြို့သာသနာ့မဏ္ဍိုင်ပါဠိတက္ကသိုလ်၊ရန်ကုန်-ဗဟန်း ညောင်တုန်းကျောင်းတိုက်တို့တွင် သင်ကြားခဲ့ပြီး ညောင်တုန်းကျောင်းတိုက်မှပင် ၁၉၈၀-ခုနှစ်၌ ဓမ္မာစရိယစာချတန်းအောင်မြင်ခဲ့ပါသည်။

- ၁၉၈၂-ခုနှစ်တွင် မဟာစည်ရိပ်သာကြီး၌ ဒုတိယအကြိမ်

တရားစခန်းဝင်ပြီးနောက် အမြဲနေကမ္မဋ္ဌာနာစရိယအဖြစ် ဆောင်ရွက်ခဲ့။

- ၁၉၈၆–ခုနှစ်တွင် မဟာစည်ရိပ်သာသြဝါဒါစရိယ ပဏ္ဍိတာရာမ ရွှေတောင်ကုန်းရိပ်သာဆရာတော်ကြီး၏ တာဝန်ပေးချက်အရ မလေးရှားနိုင်ငံ၊ ပီနန်ရှိ မဟာစည်ရိပ်သာခွဲ Malaysian Buddhist Meditation Centre သို့ ကမ္မဋ္ဌာနာစရိယအဖြစ် သွားရောက်ခဲ့။

- ပီနန်တွင် နေထိုင်စဉ်အတွင်း ပဏ္ဍိတာရာမရွှေတောင်ကုန်း သာသနာ့ရိပ်သာ ဆရာတော်ကြီးနှင့်အတူ စင်္ကာပူ၊ ထိုင်း၊ နီပေါလ်၊ ဗြိတိန်၊ ဂျာမနီ၊ ဩစတြေးလျနှင့် အမေရိကန်ပြည်ထောင်စုနိုင်ငံများသို့ တရားဟော၊ တရားပြ ဓမ္မဒူတခရီးများ သွားရောက်ခဲ့ပါသည်။

- ၁၉၉၁–ခုနှစ်တွင် အင်္ဂလိပ်စာသင်ယူရန် အမေရိကန်ပြည်ထောင်စုသို့ သွားရောက်ခဲ့။ ဗီယက်နမ်ယောဂီများ၏ ပင့်လျှောက်ချက်အရ အမေရိကန်ပြည်ထောင်စု၊ ကာလီဖိုးနီးယားပြည်နယ်၊ ဆန်ဟိုဆေးမြို့ရှိ ၎င်းတို့၏ တထာဂတဝိပဿနာရိပ်သာ(Tathagata Meditation Centre)တွင် ကျောင်းထိုင်ပေးပြီး၊ တစ်ဖက်မှလည်း အင်္ဂလိပ်စာနှင့် လောကီစာပေများ သင်ယူခဲ့ပါသည်။

- ၁၉၉၇–ခုနှစ်တွင် ဆန်ဟိုဆေးတက္ကသိုလ် (San Jose State University)မှ ဝိဇ္ဇာဘွဲ့ (B.A)ကို (Com-

parative Religions)ဘာသာရပ်ဖြင့် ရခဲ့ပါသည်။

- ၁၉၉၈-ခုနှစ်တွင် မဟာဝိဇ္ဇာဘွဲ့ M.Aကို (Philosophy)ဘာသာရပ်ဖြင့် ရခဲ့ပါသည်။

- ၁၉၉၉-ခုနှစ်တွင် ဖရီးမောင့်မြို့ (Fremont)မြန်မာရပ်ကွက်တွင် မေတ္တာနန္ဒဝိဟာရဓမ္မရိပ်သာ (Mettananda Vihara Dhamma Yeitha)ကို ထူထောင်ခဲ့ပြီး စာပေဆက်လက်သင်ကြားခဲ့။

- ၂၀၀၃-ခုနှစ်တွင် ကာလီဖိုးနီးယားတက္ကသိုလ် (California Institute)မှ ဒဿနိကဘာသာရပ်ဖြင့် ဒေါက်တာဘွဲ့ (Ph.D)ရခဲ့ပါသည်။

- ၁၉၉၉-ခုနှစ်တွင် ရန်ကုန်၊ သဃ်န်းကျွန်းမြို့နယ်၊ ၁၆/၃ရပ်ကွက်ရှိ ငါးကျမ်းပြန်(ထားဝယ်)သာသနာ့ရိပ်သာ၏ စတုတ္ထမြောက်ဆရာတော်ကြီး ဦးသုမင်္ဂလာဘိဝံသက ကျောင်းတိုက်ကို နှစ်ပါးဆိုင် (ဒွိသန္တက)အဖြစ် အပ်နှံလှူဒါန်းသဖြင့် အမေရိကန်ပြည်ထောင်စုရှိ မေတ္တာနန္ဒဝိဟာရဓမ္မရိပ်သာနှင့် သဃ်န်းကျွန်း ငါးကျမ်းပြန်(ထားဝယ်)ကျောင်းတို့တွင် အလျဉ်းသင့်သလို သီတင်းသုံးကာ ကျောင်းတိုက်ကြီးနှစ်ခုကို တိုးတက်အောင် ကြိုးပမ်းရင်း သာသနာပြုလျက်ရှိပါသည်။



# ကိုယ့်တစ်ယောက်တည်းအတွက်သာဆိုလျှင်

သာသနာတော်အကျိုး၊ နိုင်ငံတော်အကျိုးကို သယ်ပိုးထမ်းရွက်ကြသော သာသနာ့ခေါင်းဆောင်၊ နိုင်ငံ့ခေါင်းဆောင်ကြီးများ၏ ဖွဲ့စိတ်ဖွဲ့မာန်အပြည့်ဖြင့် သာသနာ့ကိစ္စ၊ နိုင်ငံ့ကိစ္စ ဆောင်ရွက်ကြပုံများသည် ခေတ်လူငယ်တို့အတွက် အတုယူတတ်မည်ဆိုလျှင် အတုယူစရာတွေ များစွာရှိနေပါ၏။ ထေရဝါဒသာသနာ ထွန်းကားသော မြန်မာပြည်ရှိ သာသနာ့ခေါင်းဆောင်၊ သာသနာ့အာဇာနည်တို့သည် မြတ်ဗုဒ္ဓ၏ သာသနာတော်ကြီး တိုးတက်၊ စည်ပင်၊ ပြန့်ပွားမည်ဆိုလျှင် သူတို့ကိုယ်တိုင် ဆင်းရဲခံရမည်ကို အနည်းငယ်မျှ စိုးရွံ့တော်မမူကြဘဲ ရဲစိတ်ရဲမာန်ဖြင့် သာသနာတော်အကျိုး၊ ပရဟိတအကျိုးများကို အားသွန်ခွန်စိုက်ဆောင်ရွက်တော်မူကြသည်။ ပရဟိတ အကျိုးများအတွက် တကယ်တမ်းအလုပ်လုပ်သူ နည်းပါးလှသော ဤခေတ်ကြီးဝယ် သူတို့၏ လုပ်ဆောင်ချက်များသည် စာရေးသူအတွက် အဟောဝတ–အံ့သြစရာတွေချည်းပါတကား။

သို့သော် အလုပ်ကို တကယ်တမ်းလုပ်သူတို့အတွက် လောကဓံတရားတွေကို ပို၍ရင်ဆိုင်ရတတ်ကြောင်း သူတို့၏ သမိုင်းကြောင်းများကို ဖတ်ရပြန်သောအခါ သူတို့အတွက် ဝမ်းနည်းစိတ်တွေ ဖြစ်မိပြန်၏။ ထိုဝမ်းနည်းစိတ်တွေကြောင့် အပြစ်မဲ့သော လောကကြီးကို အပြစ်တင်လုမတတ် ဖြစ်ခဲ့ရပြန်၏။ လောကသဘောကို တရားသဘောဖြင့် ဆင်ခြင်ကြည့်သည့်အခါမှ သူတို့အတွက် စိတ်သက်သာရာ ရပေတော့သည်။ ဤလောကကြီးဝယ် အလုပ်မလုပ်ဘဲ ကြီးပွားလိုသူတို့သည် အလုပ်လုပ်၍ ကြီးပွားသူများကို မျက်စိဆံပင်မွေးစူးလေ့ရှိကြ၏။ ထိုအခါမျိုး၌ သာသနာတော်အတွက် အလုပ်လုပ်သူတို့သည် ပတ်ဝန်းကျင်လှိုင်းဂယက်ကြောင့် သူတို့ရဲ့ဘဝလေးတွေ ပြိုလဲလုမတတ် ဖြစ်ခဲ့ကြရ၏။ ဤသို့သောအခါမျိုး၌ သူတို့အတွက် အားကိုးအားထားစရာဆိုလို့ အရှိန်ရှိ၍ ပညာဂုဏ်ကြီးမားတော်မူကြသော ဆရာတော်ကြီးများ၏ အဆုံးအမဩဝါဒတော်များသည် ပိတ်သည်းနေသော ကန္တာရခရီးခဲကြီးထဲ၌ အဖော်သဟဲပမာ ဖြစ်ရပြန်၏။ ဤနည်းဖြင့် သတိထား၍ သဘာဝတရားများကို ဉာဏ်ဖြင့် ရှုကြည့်ရာမှ လောကသဘာဝတရားများကို နားလည်ခွင့်ရခဲ့ရ၏။ "အပြစ်တင်လိုသော လူ့သဘာဝတွေ ရှိနေသရွေ့ အပြစ်တင်ခံရသော လူများလည်း ရှိနေဦးမည်သာ" ဟူ၍။

## လောကဓမ္မတာ

မေတ္တာ၊ ကရုဏာကြီးမားတော်မူကြသော ဆရာတော်ကြီးများ၏ အဆုံးအမဩဝါဒတော်တို့သည် ပြိုလုနီးပါး ဖြစ်ခဲ့ရသော မိမိ၏ဘဝလေးအတွက် အားဆေးသဖွယ်ဖြစ်ခဲ့၏။ ကန္တာရခရီးခဲနှင့်တူလှသော လူဘဝခရီးကြမ်းကြီးကို ဖွဲ့စိတ်ဖွဲ့မာန်တို့ဖြင့် ကျော်လွှားနိုင်ခဲ့၏။ ထိုကဲ့သို့သော

အားမာန်ပါသော ဆရာတော်ကြီးများ၏ အဆုံးအမသြဝါဒတော်တချို့ကို စာရှုသူတို့အား ပေးဝေလိုပါ၏။ တောင်မြို့မဟာဂန္ဓာရုံဆရာတော်ဘုရားကြီး၏ သြဝါဒတော်မှာ ''လူဟုဆိုလျှင်၊ လူလိုပင်သာ၊ လူတွင်တွေ့ရှိ၊ ကြောင်းအကျိုးနှင့်၊ ကောင်းဆိုးနှစ်တန်၊ လောကဓံကို၊ အမှန်တွေ့မြဲ၊ စိတ်ဝယ်စွဲ၍၊ ဝမ်းနည်းဝမ်းသာ၊ မများပါမှ''တဲ့။ (တစ်ဘဝသံသရာ၊ စာ-၁၀၅)

ဤလူ့ဘုံသည် လောကဓံတရားကို ဆုံဆည်းရာမြေဟုပင် ဆိုရလေတော့မလားမသိ။ ကြုံလိုက်ရတဲ့ လောကဓံ။ ခံလိုက်ရတဲ့ လောကဓံ။ သို့ရာတွင် ဤလူ့ဘုံ၌ ကြိုးစားအားထုတ်သူ တစ်ယောက်အား အထက်တန်းရောက်အောင် ပို့ဆောင်ပေးတတ်သော အကြောင်းတရားများလည်း ရှိနေသေးတာကြောင့် ဤလူ့ဘုံမှာ၊ ဤလောကဓံတရားတွေနဲ့ ဖြေသာနေသာတဲ့သဘောတော့ ရှိနေပါလေရဲ့။

## ဘဝနှင့်လောကဓံလူသား

စာရေးသူ ငယ်စဉ်အခါက ရှစ်နှစ်သားအရွယ်၌ မိမိမွေးရပ်မြေမှ ထွက်ခွာလာခဲ့ရ၏။ ငယ်ငယ်ရွယ်ရွယ် ကလေးဘဝအရွယ်မှာ မိဝေး၊ ဘဝေးနဲ့ နေရတဲ့ဘဝမျိုး ပိုင်ဆိုင်သူကို 'ကံခေသူ'ဟု ဆိုလိုက ဆိုနိုင်ပါ၏။ သို့သော် စာရေးသူသည် ထိုအခြေအနေမျိုးနှင့် နေရလင့်ကစား ဘဝအတွက် အားမငယ်မိခဲ့။ မိမိအား စာတတ်စေချင်၍ မိဘများက ရွာခြား၊ မြေခြားမှာ ပို့ထားခြင်းဖြစ်ကြောင်း ကလေးနှလုံးသားလေးဖြင့် နားလည်ပေးနိုင်ခဲ့၏။ မိဘ၏ မေတ္တာ၊ စေတနာများကို နားလည်ပေးနိုင်၍လည်း စာရေးသူသည် ကြီးလာခဲ့ရင် စာတတ် ပေတတ်ကြီးတစ်ယောက်ဖြစ်ချင်သည့်စိတ်များလည်း တဖွားဖွားဖြစ်ပေါ်နေခဲ့၏။ သို့သော် ဘဝအတွက်

အခြေအနေကောင်းများ မပေးခဲ့၍ စာရေးသူ၏ ငယ်ရွယ်စဉ်ဘဝတွင် ပညာရေး၌ ထူးထူးချွန်ချွန်မရှိခဲ့ပါ။

ပညာရေးထူးချွန်မှု မရှိသောသူများ၏ ဘဝသည် တစ်ခါတစ်ရံ လမ်းခုလတ်၌ ယောက်ယက်ခတ်တတ်ပါ၏။ ဟိုမြို့ကို ပြောင်းနေရမလိုလို၊ ဒီမြို့ကိုပဲ ပြောင်းနေရမလိုလို မတည်မငြိမ်ဖြစ်တတ်ပါ၏။ တစ်မြို့မှတစ်မြို့ အခြေအနေအရ ပြောင်းရ၊ ရွှေ့ရသော်လည်း 'သေချင်သည့်ကျား တော ပြောင်း'ရသည့် အဖြစ်မျိုး မရောက်ရှိရအောင် ကိုယ့်ကိုယ်ကို သတိ၊ ဝီရိယဖြင့် ထိန်းကျောင်းခဲ့ရပါ၏။ မိမိရောက်ရာ စာသင်တိုက်ကြီးများ၌ မိမိကိုယ်ကိုမိမိ ပညာရေးဘက်၌ ထူးထူးချွန်ချွန် မဖြစ်နိုင်တော့ကြောင်း သိရှိလာသောအခါ စာရေးသူသည် ပညာတော်သော သူငယ်ချင်းများ၊ ပညာကြိုးစားသော သူငယ်ချင်းများအပေါ်၌ ခင်မင်စိတ်တွေ၊ အားကျ စိတ်တွေ ပိုခဲ့ပါ၏။ ငါလည်း သူတို့လို ပညာရေးဘက်မှာ တော်ခဲ့ရင် သိပ်ကောင်းမှာပဲပေါ့။

သံသရာစက်ရဟတ်သည် တစ်ပတ်လည်ခဲ့ပြန်ပြီ။ ပညာသင်ခွင့် အခွင့်လမ်းများလည်း တစ်ဖန်ရခဲ့ပြန်ပြီ။ ဒီတစ်ခါတော့ ပေးလာသော အခွင့်လမ်းကို လက်လွတ်မခံချင်၍ မိမိအချိန်များထဲမှ ရသမျှအချိန်ကို ယူ၍ ပညာများကို တစိုက်မတ်မတ် ကြိုးစားသင်ကြားခဲ့ပါ၏။ အကျိုး တရားအနေဖြင့် ပညာများ ပေါက်ပေါက်ရောက်ရောက် မတတ်မြောက် ခဲ့သော်လည်း ပညာရေးနယ်ပယ်၌ အလေးအမြတ်ထားသော Ph.D. ဒေါက်တာဘွဲ့ကို ရရှိခဲ့ပါ၏။ သို့သော် မိမိသင်ကြားခဲ့သော ဘာသာရပ် များ၌ ပါရဂူမြောက် တတ်မြောက်သည်ဟူ၍ကား ဘယ်သောအခါမှ ဝန်မခံရဲပါ။ ဒါပေမယ့် ရထားတဲ့ ပါရဂူဘွဲ့လေးကိုတော့ ကိစ္စဝိစ္စဆောင်ရွက် ရတဲ့အခါ အဆင်ချောမောရေးအတွက် အလျဉ်းသင့်သလို အသုံးတော့ ပြုရမှာပဲပေါ့။

## ဘဝနှင့်လုပ်ငန်းစဉ်

စာရေးသူ၏ နိစ္စဓူဝအလုပ်ကား ကမ္မဋ္ဌာန်းထိုင်ခြင်းနှင့် ကမ္မဋ္ဌာန်းတရားများကို ဟောပြောပေးရခြင်းအလုပ်။ မိမိစွမ်းသမျှလေးနှင့် နိုင်ငံတကာသို့ လှည့်လည်ပြီး ဟောပြောပြသပေးနေရတဲ့ တရားကလည်း ဝိပဿနာကမ္မဋ္ဌာန်းတရား။ စာရေးသူ၏ အသိုင်းအဝိုင်း၌ စာရေးသူကို ကမ္မဋ္ဌာန်းဆရာတော်တစ်ပါးအနေနှင့်သာ အသိများကြပါ၏။ သို့သော် နိုင်ငံတကာအတွေ့အကြုံနှင့် မိမိ၏ပတ်ဝန်းကျင်အတွေ့အကြုံများကြောင့် စာရေးသူသည် ပရဟိတလုပ်ငန်းများ၌လည်း စိတ်အားသန်လျက်ရှိနေ၏။ အကျိုးတရားအနေနှင့် သင်္ကန်းကျွန်း ၁၆/၃ ရပ်ကွက်အတွင်း၌ရှိသော ငါးကျမ်းပြန်(ထားဝယ်)သာသနာ့ရိပ်သာ၌ ရဟန်း၊ ရှင်၊ လူ ပြည်သူ အားလုံးအတွက် 'မေတ္တာနန္ဒကုသိုလ်ဖြစ်ဆေးခန်း'နှင့် 'မေတ္တာနန္ဒ စာကြည့်တိုက်'ကို ၂၀၀၁-ခုနှစ်၊ ဇန်နဝါရီလ၌ ဖွင့်လှစ်ပေးနိုင်ခဲ့၏။ ကုသိုလ်ဖြစ်ဆေးခန်းကို တစ်ပတ်(၂)ရက်ဖွင့်ပြီး၊ တစ်ရက်မှာ လူနာ (၅၀)ခန့်သာ လက်ခံကုသပေးနိုင်ပါ၏။

စာရေးသူတို့နေထိုင်ရာ ကျောင်းသည် ရိပ်သာကျောင်းဖြစ်သော်လည်း နောင်းခေတ်လူငယ်များ အမျိုး၊ ဘာသာ၊ သာသနာနှင့်စပ်၍ ဗုဒ္ဓယဉ်ကျေးမှုများနှင့် ဗုဒ္ဓစာပေ ဗဟုသုတများ ရရှိနိုင်ရန်နှင့် ပရိယတ် မကင်းသော ပဋိပတ်ကျင့်စဉ်များကို ကလေးအရွယ်လေးများနှင့် တန်သလောက် ကျင့်တတ်၊ နေထိုင်တတ်အောင် နွေရာသီဗုဒ္ဓယဉ်ကျေးမှု သင်တန်းများကို မြန်မာနိုင်ငံ၌လည်းကောင်း၊ အမေရိကန်နိုင်ငံ၌ လည်းကောင်း ဖွင့်လှစ်ပေးလျက်ရှိနေပါသည်။ ထိုသို့ ဖွင့်လှစ်ပေးရာ၌ ရန်ကုန်တိုင်း၊ သင်္ကန်းကျွန်းမြို့နယ်၊ ငါးကျမ်းပြန်(ထားဝယ်)သာသနာ့ ရိပ်သာ၌ တစ်နှစ်လျှင်တစ်ကြိမ်၊ တစ်ကြိမ်ဖွင့်လျှင် တစ်လကြာမြင့်ပြီး၊

အမေရိကန်နိုင်ငံ ကာလီဖိုးနီးယားပြည်နယ်၊ ဖရီးမောင့်မြို့ရှိ မေတ္တာနန္ဒဝိဟာရဓမ္မရိပ်သာ၌ တစ်နှစ်လျှင် တစ်ကြိမ်၊ တစ်ကြိမ်လျှင် တစ်ပတ်ကြာမြင့်ပါသည်။

စာရေးသူသည် နိုင်ငံပေါင်း(၁၅)နိုင်ငံသို့ ဓမ္မဒူတခရီးများကို ကြွရောက်ခဲ့ပြီး တရားပွဲများ၊ တရားစခန်းပွဲများကို အကြိမ်များစွာ ဟောကြားပြသပေးခဲ့ပါ၏။ အထူးသဖြင့် အမေရိကန်နိုင်ငံ၊ ကနေဒါနိုင်ငံ၊ မလေးရှားနိုင်ငံ၊ စင်္ကာပူနိုင်ငံ၊ နီပေါ(လ်)နိုင်ငံနှင့် မြန်မာနိုင်ငံတို့၌ အများဆုံး အချိန်ယူ၍ ဝိပဿနာတရားတို့ကို ဟောကြားပြသပေးနေပါ၏။ ဝိပဿနာတရားစခန်းများကို အခွင့်အခါပေးတိုင်း ဟောကြားပြသပေးနေသော်လည်း မြန်မာနိုင်ငံရှိ ရဟန်း၊ သာမဏေ၊ သိက္ခာရှင်(သီလရှင်)များနှင့် ကျောင်းသား၊ ကျောင်းသူများအား ဘာသန္တရ(အင်္ဂလိပ်)စာပေကို သင်ကြားပေးလိုသော စိတ်များလည်း စာရေးသူ၏ရင်မှာ မကြာမကြာဖြစ်ပေါ်လျက်ရှိနေပါ၏။ ငယ်စဉ်အခါက ပညာပါရမီနည်းခဲ့သည်ကို ပြန်လည်အမှတ်ရနေပြီး၊ မိမိသင်ကြားလေ့လာခဲ့သော အသိပညာ၊ အတတ်ပညာများကို သူတစ်ပါးတို့အား ပညာဒါနအဖြစ် ပေးဝေလိုသော စိတ်များလည်း တဖွားဖွား ဖြစ်ပေါ်လျက်ရှိနေ၏။ ဤစိတ်ဆန္ဒများကို ပံ့ပိုးသည့်အနေအားဖြင့် 'ပညာပါရမီကျောင်းဆောင်တော်ကြီး'ကို စတင်၍ ဆောက်လုပ်စေခဲ့ပါ၏။ ပရဟိတအကျိုးအတွက် ဆောက်လုပ်လှူဒါန်းသော ကျောင်းဆောင်တော်ကြီးဖြစ်၍ မိမိ၏ ပရဟိတလုပ်ငန်း အကျိုးပေးသောကံ ရှိ၊ မရှိ ဤကျောင်းတော်ကြီး ဆောက်လုပ်ပြီး၊ မပြီးကသက်သေထူမည်ဖြစ်၏။

# ကိုယ်တစ်ယောက်တည်း ကောင်းစားဖို့ မဟုတ်ပါ

သာသနာ့ကိစ္စဆောင်ရွက်ချက်များ၊ ပရဟိတလုပ်ငန်းများနှင့် ပတ်သက်၍ သူတစ်ပါးတို့အား ပြောကြားလိုသည့်စိတ်များ ရှိလှသည် တော့ မဟုတ်ပါ။ သို့သော် ခေတ်နှင့်လျော်ညီစွာ ပြောသလိုလုပ်၍၊ လုပ်သလိုပြောသော ဆရာတော်ကြီးများ၏ အတွေးအမြင်၊ အယူအဆ တို့ကို ကြိုဆို၊ ထောက်ခံသော အနေအားဖြင့်လည်းကောင်း၊ လေးမြတ် ကော်ရော် ပူဇော်သောအားဖြင့်လည်းကောင်း မိမိ၏ သာသနာရေး ဆောင်ရွက်ချက်များနှင့် ပရဟိတလုပ်ငန်းအချို့ကို ရိုးသားပွင့်လင်းသော စေတနာအရင်းခံဖြင့် ရေးသားတင်ပြခြင်းဖြစ်ပါ၏။ တောင်မြို့ မဟာ ဂန္ဓာရုံဆရာတော်ဘုရားကြီး၏ ကိုယ်တိုင်ရေး ထေရုပ္ပတ္တိမှာ ဖော်ပြ ထားတဲ့ သာသနာတော်ကို အကြောင်းပြုပြီး နိုင်ငံပါ အေးချမ်းသာယာ တယ်ဆိုတဲ့ ဂုဏ်ကို လိုချင်တဲ့ ပုဂ္ဂိုလ်တွေထဲမှာ စာရေးသူလည်း အပါ အဝင်ပါပဲဟု မဝံ့မရဲ ပြောပါရစေတော့ဟု။

တောင်မြို့ဆရာတော်ဘုရားကြီးသည် ပြောသလိုလုပ်၍ လုပ်သလို ပြောသော ဆရာတော်ဖြစ်၏။ ဆရာတော်ဘုရားကြီး၏ စူးရှ သော အတွေးအမြင်နှင့် ရဲဝံ့ပြတ်သားသော ရေးသားပြောဆိုချက်များကို စာရေးသူသည် တကယ်ပင် သဘောကျမိ၏။ ဆရာတော်ဘုရားကြီး ကိုယ်တိုင်ရေးထေရုပ္ပတ္တိမှာ "တပည့်တော်ရဲ့ ကျောင်းတိုက်တစ်တိုက်သာ ကောင်းဖို့လောက်ဆိုရင် ဒါလောက် မကြိုးစားပါဘူး။ နောင်အနာဂတ် အတွက် နိုင်ငံရော သာသနာရော ကောင်းဖို့ကို ရည်ရွယ်တာ ဖြစ်ပါ တယ်။ တပည့်တော်ရဲ့ စိတ်မှာ တိုက်တစ်တိုက်၊ ဂိုဏ်းတစ်ဂိုဏ်း၊ သာသနာ တစ်ရပ် ကောင်းစားရေးဆိုတဲ့ စိတ်ထားမရှိပါဘူး။ အများကောင်းစား စေလိုတဲ့ စိတ်ချည်းပါပဲ။ တပည့်တော်က သာသနာရေးစိတ်နဲ့ချည်း

ကြိုးစားတာ မဟုတ်ပါဘူး။ နိုင်ငံရေးစိတ်နဲ့လည်း ကြိုးစားတာပါ။ ဗုဒ္ဓ မြတ်စွာရဲ့ အမွေအနှစ်ဖြစ်တဲ့ သာသနာတော်ကြီးကိုလည်းကောင်း၊ သာသနာတော်ကို ကြည်ညိုထောက်ပံ့ကြတဲ့ ဒကာ၊ ဒကာမတို့နေရာ နိုင်ငံတော်ကိုလည်းကောင်း အင်မတန်သာယာစေလိုတဲ့ဆန္ဒ တပည့် တော်မှာ ပြင်းပြနေပါတယ်ဘုရား။ ပြီးတော့လည်း သာသနာတော်ကို **အကြောင်းပြုပြီး နိုင်ငံပါ အေးချမ်းသာယာတယ်ဆိုတဲ့** ဂုဏ်ကို အလွန် လိုချင်ပါတယ်''ဟု ရဲရဲတောက် ရေးသားထုတ်ဖော် ပြောဆိုခဲ့၏

**အလားတူစွာပင် မေတ္တာ၊ စေတနာ အပြည့်အဝဖြင့် သာသနာ** တော်အကျိုး၊ နိုင်ငံတော်အကျိုးနှင့် ပရဟိတအကျိုးကိုပါ သယ်ပိုးထမ်း ရွက်တော်မူကြသော ဆရာတော်ကြီးများ၏ ကြီးမားသော မေတ္တာ၊ ကရုဏာတော်တို့ဖြင့် ထေရဝါဒသာသနာ တည်တံ့ ပြန့်ပွားရေးအတွက် ဖော်မပြနိုင်သော ကျေးဇူးတရားတွေသည် အမှန်ပင်တည်ရှိနေပါသည်။ လူမျိုး၊ ဘာသာ၊ သာသနာတော်အတွက် ဆင်းရဲခံ၍ သာသနာ့ဝန်ကို ထမ်းရွက်တော်မူကြခြင်းသည် တစ်ဦးတစ်ယောက် ချမ်းသာရောက်ဖို့ အတွက် ကြိုးစားအားထုတ်ခြင်းမျိုး မဟုတ်ကြဘဲ၊ ရဟန်း၊ ရှင်၊ လူ၊ ပြည်သူအများ ချမ်းသာရဖို့နှင့် သာသနာတော်ကို အမှီပြုပြီး နိုင်ငံ တော်ကိုပါ အေးချမ်းသာယာစေဖို့ ဖြူစင်သော စေတနာများနှင့် ကြီးမား သော လုံ့လဝီရိယရှိတော်မူကြသော ဆရာတော်ကြီးများနှင့် ပရဟိတ ဝန်ဆောင် သံဃာတော်များအား စာရေးသူသည် အသက်ထက်ဆုံး ရှိခိုးဦးညွှတ်နေတော့မည်သာတည်း။



# ဆိုရေးရှိက ဆိုအပ်လှ၏

မှားသည်ဖြစ်စေ၊ မှန်သည်ဖြစ်စေ သူသူငါငါ မိမိလက်ခံထားသော ဝါဒတစ်ခုကို(သို့မဟုတ်) အစဉ်အလာတစ်ခုကို တစ်ဦးတစ်ယောက်က စိစစ်၊ ဝေဖန်ပြခဲ့လျှင် စိတ်ထဲကတော့ မနှစ်သက်ချင်။ တစ်ဖက်သား၏ ဝေဖန်စိစစ်ပြချက်ကို အပြန်အလှန် ဆွေးနွေးနိုင်ဖို့ဆိုသည်မှာ ပို၍ပင် မလွယ်ရေးချ မလွယ်ချင်။ ထိုသို့ဖြစ်ရခြင်းမှာ ဝေဖန်ထောက်ပြခံရသော မိမိက အမှန်ဟု ယူဆထားသော ထိုအယူဝါဒကို (သို့မဟုတ်) ထိုအယူအဆကို မိမိတို့သည် လုံးဝဥဿုံ အမှန်တရားဟု အရိုးစွဲ လက်ခံထား သောကြောင့် ဖြစ်ကောင်းဖြစ်ပေလိမ့်မည်။ ဤသို့ဆိုလျှင် ဝါဒတစ်ခုကို (သို့မဟုတ်) အစဉ်အလာတစ်ခုကို စေတနာဖြင့် ဝေဖန်သုံးသပ်ပြသော သူများကို ရှေးထုံးကိုပယ်သော 'ခေတ်သစ်ဝါဒီများ' ဟု ဆိုရလေတော့ မလားမသိ။

မည်သို့ပင်ဆိုကြပါစေ၊ စာရေးသူသည် ခေတ်မီ၍ရှေးကျသော ဗုဒ္ဓဝါဒကို အမှန်တကယ်ပင် သဘောကျ၏။ ကာလာမသုတ်တော်လာ မြတ်ဗုဒ္ဓ၏ အတွေးအမြင်တို့ကို ကြည်ညို၍ မဆုံးနိုင်အောင်ပင်ရှိ၏။ မြတ်ဗုဒ္ဓအား လေးစားစိတ်တွေ ပိုမိ၏။ မြတ်ဗုဒ္ဓ၏ ပွင့်လင်းသော အတွေးအမြင်တို့သည် အစဉ်အလာတစ်ခုကို အရိုးစွဲလက်ခံထားသော သူတို့အဖို့ တက်သာဆုတ်သာရှိလှ၏။ မြတ်ဗုဒ္ဓ၏ အတွေးအမြင်က ခပ်ရှင်းရှင်းလေးပင်။ ဘိက္ခုတို့– အယူဝါဒတစ်ခုကို လက်ခံကျင့်သုံးကြရတဲ့အခါမှာ ဒီအယူဝါဒကို ရှေးရှေးအစဉ်အလာမို့ လက်ခံရတာမျိုး၊ မိမိတို့ မိဘဘိုးဘွားတွေ ကျင့်သုံးလိုက်နာခဲ့လို့ လိုက်နာရတာမျိုး၊ မိမိတို့ ဘာသာရေးခေါင်းဆောင်တွေက ပြောဟောခဲ့လို့ လက်ခံရတာမျိုး အများလေးစားကြည်ညိုတဲ့ ပညာရှိဆိုသူများက ပြောကြားခဲ့လို့ လက်ခံရတာမျိုး မဖြစ်ပါစေနဲ့။ ဖြစ်သင့်တာက စဉ်းစဉ်းစားစား နှိုင်းနှိုင်းချိန်ချိန်နဲ့ ဖြစ်သင့် မဖြစ်သင့်၊ ပြုသင့် မပြုသင့် စိစစ်ကြည့်တတ်ဖို့လိုပါတယ်။ ကိုယ်ပြုတဲ့ အပြုအမူ၊ ကိုယ်ပြောတဲ့ အပြောအဆိုတို့သည် အပြစ်ကင်း မကင်း၊ အကုသိုလ်တရားများ တိုးပွားနိုင် မတိုးပွားနိုင်၊ ပညာရှိသူတော်ကောင်းတို့ မြင်သွားလျှင် (သို့မဟုတ်) ကြားသွားခဲ့လျှင် ကဲ့ရဲ့ဖွယ်ဖြစ် မဖြစ် ကိုယ်ပိုင်ဉာဏ်ဖြင့် စိစစ်ပြီး လက်ခံဖို့လိုကြောင်း ဗုဒ္ဓဘုရားရှင်တော် မိန့်မှာတော်မူခဲ့၏။ ကာလာမသုတ်တော်၏ အနှစ်ချုပ် ဩဝါဒတော်သည် အယူဝါဒ တစ်ခု(သို့မဟုတ်) ဓလေ့ထုံးစံတစ်ခုကို အရိုးစွဲလက်ခံမထားသင့်ကြောင်း ထင်ရှားပေါ်လွင်စေပါသည်။

သို့သော် ရှေးရိုးဝါဒီတို့သည် ရှေးထုံးတမ်းစဉ်လာများကို အရိုးစွဲ ဆုပ်ကိုင်ထားလိုကြသည်။ 'ဈေးသုံးလည်းမလွှယ်နှင့်၊ ရှေးထုံးလည်း မပယ်နှင့်'ဟူသော အဆိုအမိန့်ကို ခြွင်းချက်မရှိ လက်ခံထားလိုဟန် ရှိကြ၏။ စာရေးသူသည်လည်း ရှေးဆန်သူတစ်ယောက် ဖြစ်ပါသည်။

သို့သော် 'ရှေးထုံးလည်းမပယ်နှင့်'ဟူသော ဆိုရိုးစကားနှင့်ပတ်သက်၍ ခြွင်းချက်ဖြင့် လက်ခံသင့်သည်ဟု ထင်မြင်ယူဆမိပါသည်။ ခေတ်တို့သည် အဆင့်ဆင့်ပြောင်းလဲနေ၏။ အဆင့်ဆင့်ပြောင်းလဲနေရာ တစ်ခါတစ်ရံမှာ ရှေးဆန်လွန်းသော ပစ္စည်းတစ်ခုသည် ခေတ်ဆန်လွန်းနေသည်ကို တွေ့ရပြန်သည်။ ဥပမာ–စာရေးသူတို့၏ ဆရာ၊ ဆရာများ အသုံးပြုခဲ့သော မျက်မှန်ဝိုင်းကလေးများသည် ယနေ့ခေတ်သစ်ကမ္ဘာ၌ ပေါ်ပြူလာဖြစ်လျက် ရေပန်းစားနေပြန်၏။ ထို့ကြောင့် ခေတ်ကာလအလျောက် ဆိုမိန့်ခဲ့သော ရှေးထုံးတမ်းစဉ်လာများသည် အမြဲတမ်းခေတ်နှင့်လျော်ညီချင်မှ လျော်ပေလိမ့်မည်။ အဘယ်ကြောင့်ဆိုသော် ရှေးခေတ်၊ ရှေးအခါ၊ ရှေးရိုးစရိုက်နှင့် လိုက်လျောညီထွေ ဖြစ်ခဲ့ကြသည်မှန်သော်လည်း ဤခေတ်၊ ဤအခါ၊ ဤခေတ်သစ်စရိုက်နှင့် အံဝင်ခွင်ကျရှိချင်မှ ရှိပေလိမ့်မည်။

ခေတ်တို့သည် အစဉ်ပြောင်းလဲနေသည်ဟု ဆိုရာ၌ တိုးတက်၍ပြောင်းလဲလာသည်လည်း ရှိသည်။ ဆုတ်ယုတ်၍ ပြောင်းလွဲသွားသည်လည်း ရှိသည်။ မည်သို့ပင်ဖြစ်စေ ပြောင်းလဲဖြစ်ထွန်းလာသည့် အချိန်အခါ(သို့မဟုတ်) ပြောင်းလဲနေသောခေတ်သို့လိုက်၍ ဓလေ့ထုံးစံများ၊ နေထိုင်မှု အဆင့်အတန်းများ ပြောင်းလဲတတ်စမြဲဖြစ်သည်။ ရှေးခေတ်၌ကျင့်သုံးလာခဲ့သော ဓလေ့ထုံးစံများသည် ခေတ်သစ်၌လည်း အသုံးဝင်ဆဲ၊ အကျိုးပြုဆဲ ဖြစ်နေလျှင် ဤကဲ့သို့ ရှေးထုံးများကို ဆက်လက်ကျင့်သုံးရမည်ဖြစ်သော်လည်း ခေတ်နှင့် မလျော်ညီတော့သော၊ လူ့အဖွဲ့အစည်းများအတွက် ဆက်လက်အကျိုးမပြုတော့သော ရှေးထုံးများကိုမူ ပယ်သင့်က ပယ်ရမည်သာ ဖြစ်ပေသည်။ သို့မှသာလျှင် အမျိုးသားယဉ်ကျေးမှုနှင့် ဘာသာ၊ သာသနာယဉ်ကျေးမှုတို့သည် ခေတ်လူငယ်များနှင့် အံဝင်ခွင်ကျ ရှိပေလိမ့်မည်။

အမျိုးသားယဉ်ကျေးမှုနှင့် စပ်လျဉ်း၍ အဓိပ္ပါယ်အမျိုးမျိုး ဖွင့်ဆိုလျက်ရှိကြသည်။ စာရေးသူအနေနှင့်လည်း မိမိနှစ်သက်ရာကို တင်ပြရသော် အမျိုးသားယဉ်ကျေးမှုဟူသည် လူမျိုးတစ်မျိုး၏ လူနေမှုစနစ်များ၊ လူနေမှုအဆင့်အတန်းများ၊ ဓလေ့ထုံးစံများ ယုံကြည်ကိုးကွယ်မှုများ ဘာသာစကားနှင့် စာပေ၊ အနုပညာများကို စနစ်တကျ ထိန်းသိမ်းစောင့်ရှောက်ထားခြင်းမျိုးကို 'အမျိုးသားယဉ်ကျေးမှု'ဟု စုပေါင်းအမည်နာမမျိုးဖြင့် ခေါ်ဆိုထားခြင်းဖြစ်သည်။ မိမိ၏အမျိုးသားယဉ်ကျေးမှုကို တကယ်တမ်းမြတ်နိုးသော အမျိုးသားကောင်းတစ်ယောက်သည် (သို့မဟုတ်) အမျိုးသမီးကောင်းတစ်ယောက်သည် မိမိ၏ အမျိုးသားယဉ်ကျေးမှုကို ခေတ်နှင့်လျော်ညီစွာ ဖွံ့ဖြိုးတိုးတက်အောင် စောင့်ရှောက်လိုပါလျှင် လူ့အဖွဲ့အစည်းများအတွက် အကျိုးပြုဆဲဖြစ်သော ရှေးထုံးများကို မပစ်ပယ်ဘဲ ဆက်လက်လိုက်နာကျင့်သုံးခြင်း၊ ခေတ်နှင့်အံဝင်ခွင်ကျမှု မရှိတော့သော ရှေးထုံးများကို ပြန်လည်ဆန်းစစ်၍ ခေတ်နှင့်လျော်ညီစွာ လိုက်နာကျင့်သုံးခြင်းဖြင့် အမျိုးဘာသာ၊ သာသနာယဉ်ကျေးမှုကို ထိန်းသိမ်းစောင့်ရှောက်ရာ ရောက်ပေလိမ့်မည်။

သာဓကအဖြစ်တင်ပြရလျှင် ဘုရား၊ ကျောင်းကန်များအတွင်း၌ ကျင်းပသော ဘာသာရေးပွဲတော်များ၌ အသံချဲ့စက်များ၊ တီးဝိုင်းများ၊ အငြိမ့်များဖြင့် ပူညံပူညံ၊ ဆူညံဆူညံ ပြုလုပ်ခြင်းများသည် ဘာသာ၊ သာသနာ ယဉ်ကျေးမှု၏ တစ်စိတ်တစ်ပိုင်းဟု အထင်မှားလောက်သော အနေအထားမျိုးသို့ ရောက်ရှိနေပါပြီ။ အကယ်၍သာ ဘာသာရေးပွဲတော်များ၌ ထိုကဲ့သို့သော ဆူဆူညံညံပြုလုပ်ခြင်းကို မြန်မာ့ဓလေ့ထုံးစံတစ်ခုဟု ဆိုနိုင်ခဲ့ပါလျှင် ထိုဓလေ့ထုံးစံသည် ရှေးထုံးကို ဖြောင့်ဖြောင့်ကြီး ဆန့်ကျင်လာခဲ့သော ဓလေ့ထုံးစံဟုပင် ဆိုရပေတော့မည်။ မြတ်စွာဘုရားရှင်၏ လက်ထက်တော်ကာလများက ဘုရားတန်ဆောင်းနှင့် ကျောင်းကန်

ပရိဝုဏ်များ၌ အမြဲမပြတ် တိတ်တိတ်ဆိတ်ဆိတ်၊ ငြိမ်ငြိမ်သက်သက် ရှိလှကြောင်းကို ကျမ်းဂန်လာ သာဓက အထောက်အထားများအရ သိရှိနိုင်ပေသည်။ ဤကဲ့သို့သော ရှေးထုံးများကိုမူ လိုက်နာကျင့်သုံးနိုင်ကြလျှင် ဘာသာ၊ သာသနာ ယဉ်ကျေးမှုအတွက် ကျက်သရေတိုးစေနိုင်ပါသည်။

မြန်မာစာပေယဉ်ကျေးမှု၌ 'ကိုယ့်ဂုဏ်ကိုယ်ဖော် မသူတော်(ဂု) ပါး'ဟု ဆိုရိုးစကားတစ်ခု ရှိထားပြန်၏။ ဤဆိုရိုးစကားကြောင့် ကိုယ့်ဂုဏ်ကိုယ်ဖော်၍ ထုတ်ဖော်ပြောကြားရခြင်းမျိုး၊ ရေးသားရခြင်းမျိုးကို ယဉ်ကျေးမှုဓလေ့ထုံးစံအရ လက်မခံလိုကြပေ။ ထို့အပြင် ကျမ်းဂန်လာ အတ္တုက္ကံသန(မိမိကိုယ်ကို ချီးမြှောက်ပြောဆိုခြင်း)နှင့် ပရဝမ္ဘန (သူတစ်ပါးကို ရှုတ်ချပြောဆိုခြင်း)ဆိုသည့် အဆိုအမိန့်တို့ကြောင့် မိမိ၏ လုပ်ငန်းစဉ်နှင့် မိမိ၏လုပ်ဆောင်ချက်များကို ပြောဆိုတင်ပြရန်ပင် မဝံ့မရဲဖြစ်ရပြန်သည်။ စေတနာရိုးရိုးဖြင့် သာသနာအကျိုးပြု (သို့မဟုတ်) အများအကျိုးပြု လုပ်ငန်းများအတွက် လုပ်ဆောင်နေမှုများကို ရေးသား၊ ပြောဆိုနေသူများအား စာရေးသူအနေနှင့် အပြစ်ဟု မမြင်နိုင်ပေ။ အဘယ်ကြောင့်ဆိုသော် ကျမ်းဂန်လာ အတ္တုက္ကံသနသဘောသည် မိမိဂုဏ်ကို သာယာသော လောဘနှင့် အထင်ကြီးသော မာနများ ပါဝင်နေတတ်၍လည်းကောင်း၊ ပရဝမ္ဘနသဘောသည် သူတစ်ပါးအား ငြူစူခြင်း၊ မနာလိုခြင်း ဣဿာနှင့် မလိုမုန်းထားခြင်း ဒေါသ သဘောမျိုးပါဝင်နေတတ်၍လည်းကောင်း ပညာရှိများသည် ကိုယ့်ဂုဏ်ကို ထုတ်ဖော်ပြောဆိုရန် သတိပြုကြဟန် ရှိပေသည်။

ဤအဆိုအမိန့်နှင့် စပ်လျဉ်း၍ တောင်မြို့ မဟာဂန္ဓာရုံဆရာတော်ဘုရားကြီး၏ ရဲရင့်သော အတွေးအမြင်တို့သည် စာရေးသူအတွက် လွန်စွာပင် နှစ်ထောင်းအားရရှိလှပေ၏။ ခေတ်နှင့်လျော်ညီသော အတွေး

အမြင်ဟု စာရေးသူထင်မြင်မိပါသည်။ ဆရာတော်ဘုရားကြီးက ဤသို့ ရဲရဲရင့်ရင့် ထုတ်ဖော်ပြောဆိုခဲ့၏။ ''တစ်ခါတစ်ရံ ဂုဏ်ဖော်သင့်သော အချက်များလည်း ရှိတတ်သေး၏။ ထိုအချက်များကား မိမိဂုဏ်ကို ဖော်မပြလျှင် မိမိအလုပ်ကိုဖြစ်စေ၊ မိမိစကား၊ မိမိတရားကိုဖြစ်စေ၊ သူတစ်ပါးတို့က အထင်သေးဖွယ်ရှိသော အချက်တည်း။ ထိုကဲ့သို့ အချက်များ၌ကား မိမိဂုဏ်ကို ထိုက်သလို ထုတ်ဖော်ရပေမည်။ ထိုကဲ့သို့ မိမိအလုပ် မိမိစကားကို လေးစားစေလို၍ ဂုဏ်ဖော်ခြင်းကား မာနမဟုတ်ပါ။ မိမိအလုပ် မိမိစကားကို တွင်ကျယ်အောင် အမွှမ်းတင်တတ်၊ စီစဉ်တတ်သော အသိလိမ္မာပင် ဖြစ်ပါသည်''ဟု ဆိုရေးရှိက ဆိုအပ်လှကြောင်း အတိအလင်း ထုတ်ဖော်ပြောဆိုထားသည်ကို တွေ့နိုင်ပေသည်။ အစဉ်အလာ ဓလေ့ထုံးစံများကို ရဲရဲတင်းတင်း ထောက်ပြရဲသော ဆရာတော်ကြီးပါပေတကား။

ဤကဲ့သို့သော ခေတ်အမြင်ရှိသော၊ မျက်မှောက်ခေတ်လူသားတို့၏ အကျိုးစီးပွားကို လိုလားတော်မူကြသော ဆရာတော်ကြီးများကို စာရေးသူသည် အလွန်လေးစားမိပါသည်။ ခေတ်တို့သည် အမြဲပြောင်းလဲနေ၍ ရှေးဓလေ့ထုံးစံများကို အရိုးစွဲလက်ခံထားခြင်းမျိုးသည် ဤခေတ်သစ်ကမ္ဘာအတွက် အံဝင်ခွင်ကျလှမည်မဟုတ်ပေ။ ယနေ့ မျက်မှောက်ခေတ်သည် သိပ္ပံခေတ်ဖြစ်၏။ ကွန်ပျူတာခေတ်၊ မီဒီယာခေတ်ဟုလည်း ဆိုနိုင်၏။ အကယ်၍သာ သာသနာ့အလုပ်ကို (သို့မဟုတ်) လူသားအကျိုးပြု ပရဟိတလုပ်ငန်းများကို စေတနာရိုးရိုးဖြင့် ဆောင်ရွက်နေကြသော ပုဂ္ဂိုလ်တို့သည် မိမိတို့၏ လုပ်ငန်းကိစ္စများကို ထုတ်ဖော်ပြောဆိုခြင်း၊ အများနားလည်အောင် ရှင်းလင်းတင်ပြခြင်းမျိုး မရှိခဲ့လျှင် သာသနာ့အလုပ်၊ ပရဟိတအလုပ်များကို တကယ်မလုပ်ဘဲ 'လေ'ဖြင့် အလုပ်လုပ်

နေသူများအား ပြောခွင့်၊ ဟောခွင့်သာအောင် အားပေးနေသကဲ့သို့ ဖြစ်ပေလိမ့်မည်။ ထို့ကြောင့် ဆိုရေးရှိက ဆိုအပ်လှကြောင်း ထပ်မံ သတိပေးပြောကြားလိုပါသည်။

စာရေးသူသည် အမျိုး၊ဘာသာ၊သာသနာ ယဉ်ကျေးမှုအတွက် မပယ်သင့်သော ရှေးထုံးများကို ပယ်လိမ့်မည်မဟုတ်ပါ။ သို့သော် ဘာသာ၊ သာသနာ ယဉ်ကျေးမှုနှင့် အမျိုးသားယဉ်ကျေးမှုများကို ဖွံ့ဖြိုးတိုးတက်စေ လိုသော စိတ်၊ စေတနာတို့ဖြင့် ပယ်သင့်သော၊ လူသားတို့အား အကျိုး မပြုနိုင်တော့သော ဓလေ့ထုံးစံများကို စိစစ်လေ့လာ၍ ထိုဓလေ့ထုံးစံများ၏ အားနည်းချက်၊ အားသာချက်များကို နားလည်အောင် ကြိုးစားရပေလိမ့် မည်။ ထို့အပြင် အလုပ်များများလုပ်၍ အပြောနည်းနည်းပြောသော ဆရာတော်ကြီးများနှင့် ပရဟိတဝန်ဆောင် ပုဂ္ဂိုလ်တို့အား အားကျအတု ယူလျက် မိမိသည်လည်း အမျိုး၊ ဘာသာ၊ သာသနာ့အကျိုးများကို စွမ်းနိုင်သမျှ ဆောင်ရွက်နိုင်သော ပရဟိတဝန်ဆောင် ပုဂ္ဂိုလ်တစ်ပါး ဖြစ်လာလိမ့်မည်ဟု မျှော်လင့်မိပါသတည်း။



# ပညာရှိ သတိဖြစ်ခဲ

မြန်မာတို့၏ ဝေါဟာရ၌ 'ပညာရှိ သတိဖြစ်ခဲ' ဟူသော စကား အသုံးအနှုန်းသည် ယနေ့အထိ တွင်ကျယ်နေဆဲဖြစ်၏။ စကား၏ဆိုလို ရင်း အဓိပ္ပါယ်မှာ ပညာရှိသူတော်ကောင်းကြီးများသည် တစ်စုံတစ်ခုကို ပြုရာ၌ သတိတရားနှင့် ပြုလေ့ရှိတတ်ကြ၏၊ သို့သော် တစ်ခါတလေ တော့လည်း အကြောင်းအမျိုးမျိုးကြောင့် သတိလက်လွတ်ပြုမိတတ် ကြသေးကြောင်းကို သိစေလိုရင်းဖြစ်၏။

ကျွန်ုပ်တို့တစ်တွေမှာတော့ သတိတရားကင်းလွတ်၍ အမှုမဲ့ အမှတ်မဲ့ ပြုမိသည့်အရာတွေက များလွန်းနေသေးသည်၊ ဒါကလည်း အကြောင်းရှိပါ၏၊ ကျွန်ုပ်တို့တစ်တွေ အရွယ်ရောက်ခဲ့သည်မှစ၍ စားဝတ် နေရေး ပြေးရလွှားရ၊ ရုန်းရကန်ရနှင့် နေ့ပေါင်းများစွာကို ကုန်စေခဲ့ သည်၊ ရက်ကိုလစား၊ လကိုနှစ်စားနှင့် တစ်ဘဝအတွက် အိုမင်းရင့်ရော် ခြင်းသို့ ရောက်ခဲ့ရပြန်၏။ မိမိတို့လျှောက်လှမ်း၊ ဖြတ်သန်းခဲ့သော ခရီးစဉ်ကို

ပြန်လည်သုံးသပ်ကြည့်ပြန်တော့လည်း ဘဝ၏အဓိပ္ပါယ်ဆိုသည်မှာ ဘာဆိုဘာမျှ ရေရေရာရာ မရှိခဲ့၊ မဝေးလှတော့သော ရက်ပိုင်းလပိုင်း နှစ်ပိုင်းအတွင်း အိုခြင်း၊ နာခြင်း၊ သေခြင်းဆိုသည့် လောကနိယာမ တရားတို့ထံ အနိုင်စက်ခံဖို့ မိမိတို့တစ်တွေ ကိုယ့်ကိုယ်ကို အပ်နှင်းရပေတော့မည်၊ သတိတရားတွေ လက်လွှတ်နေခြင်းကြောင့် မရေရာသော လောကကြီးကို ရေရာသည်ဟု ထင်ခဲ့မိသော မိမိတို့တစ်တွေရဲ့ ဘဝသည် တရားသဘောအရ ကောက်ချက်ချကြည့်မည်ဆိုလျှင် ဝမ်းနည်းဖွယ် ကောင်းလေစွတကား။

သတိမဲ့မှုကို အခြေခံ၍ မိမိတို့တစ်တွေ စိတ်ဆင်းရဲ ကိုယ်ဆင်းရဲ တွေလည်း ဖြစ်ခဲ့ပေါင်းများလှပြီ၊ နောင်လည်း ဖြစ်ဖို့ အလားအလာတွေ များစွာရှိနေသေးသည်၊ အမှန်ဆိုရလျှင် သတိတရားသည် ပိုသည်မရှိ၊ လိုမြဲသာလိုနေ၏၊ တစ်ခါတစ်ရံ မိမိတို့ အမှုမဲ့အမှတ်မဲ့ ပြုလိုက်မိသော မိမိတို့၏အပြုအမူ၊ အပြောအဆိုများသည် မိမိတို့၏ ယဉ်ကျေးမှု၊ မိမိတို့၏ ဘာသာ သာသနာကိုပင် ထိခိုက်စေ၏၊ ထို့ကြောင့် ယဉ်ကျေးလှပါသည်ဆိုသော ဗုဒ္ဓဘာသာ မြန်မာနွယ်ဖွားများသည် သတိတရားကင်းမဲ့မှုကြောင့် တစ်ခါတစ်ရံ မယဉ်ကျေးဘဲ ရှိနေသည်ကို တွေ့မြင်နိုင်သည်၊ စာရေးသူ ကိုယ်တွေ့မျက်မြင် အတွေ့အကြုံတစ်ခုကို တင်ပြလိုပါသည်၊ သုံးရက်ခန့်က အမေဆုံးသွား၍ အပူလုံးကြွနေကြသော ကျန်ရစ်သူမိသားစု တစ်ခုက အသုဘအခမ်းအနားသို့ တက်ရောက်ရန် ပင့်ဖိတ်ခဲ့၍ စာရေးသူတို့ ထိုအခမ်းအနားသို့ တက်ရောက်ခွင့်ကြုံခဲ့၏၊ လူမှုရေးအရ အားပေးကူညီသည့်အနေနှင့် တက်ရောက်လာကြသော မိတ်ဆွေသူငယ်ချင်းစသော လူကြီးလူကောင်းများကိုလည်း ထိုအခမ်းအနား၌ တွေ့ကြရ၏၊ မကြာမီ ကျန်ရစ်သူမိသားစုများသည် သောကကို အနိုင်နိုင်ထိန်း၍ သံဃာတော်များ၏ ရှေ့မှောက်၌ သရဏဂုံယူခြင်း၊ ငါးပါးသီလဆောက်

တည်ခြင်းကို ပြုခဲ့ကြ၏၊ တရားနာ၍ သံဝေဂများ ပွားနေခဲ့ကြ၏၊ ထိုသို့ ပြုနေချိန်တွင် ဂုဏ်သရေရှိပါသည်ဆိုသော လူကြီးလူကောင်းများသည် 'မိမိတို့လည်း ကျန်ရစ်သူမိသားစုများနှင့်အတူ ထပ်တူထပ်မျှ ဝမ်းနည်းရပါကြောင်း' စသည်ဖြင့် ထိုသဘောကိုဆောင်သည့် အနေအားဖြင့် တိတ်တိတ်ဆိတ်ဆိတ် ရှိနေရမည့်အစား၊ ကျယ်ကျယ်လောင်လောင် စကားတွေ ပြောနေကြ၏၊ တချို့များဆို ရယ်များပင်ရယ်နေလိုက်ကြသေး ၏။ 'ဩော် . . . လူသားတို့၏ အကြင်နာတရား၊ စာနာမှုတရားဟူသည် အဘယ်သို့ပါနည်း'ဟု ကိုယ့်ကိုယ်ကို မေးမိတော့၏၊ ထို့ကြောင့် 'သတိ တရားဟူသည် လူမှုရေးကိစ္စပင် ဖြစ်လင့်ကစား အလွန်အရေးကြီး ကြောင်း' ကျွန်ုပ်တို့တစ်တွေ သတိမူသင့်လှပေသည်။

ဘာသာ၊ သာသနာရေးပွဲတော်များ၌လည်း သင်ခန်းစာယူစရာတွေ အများကြီးရှိနေပြန်၏၊ လေးစားထိုက်သော ရဟန်းသံဃာတော်များ သီလပေး၊ ပရိတ်ရွတ်၊ တရားဘာဝနာများ ဟောကြားနေစဉ်အတွင်း တိတ်တိတ်ဆိတ်ဆိတ်နေတတ်သည့် အလေ့အထသည် ဗုဒ္ဓဘာသာ မြန်မာနွယ်ဖွားတို့၌ အားနည်းနေသေး၏၊ သတိလက်လွတ်နေသေး၏၊ တရားကို တိတ်တိတ်ဆိတ်ဆိတ် ငြိမ်ငြိမ်သက်သက်နာယူတတ်သည့် ဓလေ့သည် တရားကို မြတ်နိုးသည့်သဘော၊ သံဃာတော်တို့ကို လေးစား သည့်သဘောကို ဆောင်၏၊ ကိုယ့်ယဉ်ကျေးမှုကို စံပြဖြစ်အောင် အပြု သဘောဆောင်သည့် ဂုဏ်ရည်များလည်း ပါဝင်နေ၏၊ ထိုအပြုအမူများကို မြင်ရသူတို့အတွက် ဘာသာ သာသနာ ယဉ်ကျေးမှုနှင့်စပ်၍ မြတ်နိုးစရာ လေးစားစရာ အားကျစရာ အတုယူစရာတွေ ဖြစ်သွားနိုင်၏။ လူမှန် လျှင် လူမှုရေးနှင့် မကင်းစကောင်းဖြစ်၍ လူမှုရေးအရ ဖိတ်ထားကြ သော အခြားဘာသာဝင်များ၊ အခြားလူမျိုးများလည်း မိမိတို့ပရိသတ်၌ ပါဝင်နေတတ်၏၊ တရားနာစဉ်အတွင်း စကားကို ကျယ်လောင်စွာပြော

ခြင်း၊ ရယ်မောခြင်းတို့သည် မိမိတို့လူမျိုး၏ ယဉ်ကျေးမှုအတွက်၊ ဘာသာ သာသနာအတွက် အရှက်ရစရာဖြစ်ရပြန်၏၊ မိမိအထူးလေးစားကြည်ညို သော ဆရာတော်ကြီးတစ်ပါးက စာရေးသူအား ဤသို့ အမိန့်ရှိဖူး၏၊ ``တပည့်တော်တော့ ကိုယ့်ကျောင်းပွဲတော်မှာ တပည့်တွေဖြစ်တဲ့ အငြိမ့် တွေ၊ ဗီယက်နမ်တွေကို မဖိတ်လိုဘူး၊ ဘာကြောင့်လဲဆိုရင် တပည့် တော်က သူတို့ကိုသာ စနစ်တကျရှိအောင် ပြောဆို ဆုံးမပေးတာ၊ ကိုယ့်လူမျိုးကိုကျတော့ မဆုံးမဘူးလို့ သူတို့ထင်သွားမှာစိုးလို့ မဖိတ်တာ'' ဟု အမျိုး၊ ဘာသာ၊ သာသနာကို ချစ်တဲ့စိတ်နှင့် အမိန့်ရှိတော်မူသည်။ စာရေးသူတို့တစ်တွေ သတိထားဖွယ်ကောင်းသည့် မေတ္တာဓာတ်၊ ကရုဏာဓာတ်များပါသည့် ဩဝါဒတော်ပေတကား။

အချုပ်အားဖြင့်ဆိုရလျှင် ဗုဒ္ဓဘာသာ မြန်မာနွယ်ဖွားများသည် ကိုယ့်အမျိုး၊ ကိုယ့်ဘာသာ၊ ကိုယ့်သာသနာနှင့် ကိုယ့်ယဉ်ကျေးမှုကို မြတ်နိုးကြသည့်ဦးရေ များပါ၏၊ သို့သော် သတိတရား အားနည်းနေကြ ခြင်းကြောင့် အမျိုး၊ ဘာသာ၊ သာသနာကို မြတ်နိုးကြသော်လည်း ကိုယ်မှု၊ နှုတ်မှု စောင့်စည်းမှု အားနည်းနေကြ၍ မမြတ်နိုးသလို ဖြစ်ခဲ့ ကြရ၏၊ ထို့ကြောင့် 'ပညာရှိ သတိဖြစ်ခဲ'ဟူသော ဩဝါဒဆောင်ပုဒ်ကို လက်ကိုင်ပြုလျက် သတိတရား များများထားနိုင်ကြပါစေသတည်း။



# သာသနာတော်အတွက် ဆရာတွေ ပါဝင်ကူညီသင့်ပြီ

ပြည်ပသို့ ရောက်ရှိနေသည်မှာ ငါးနှစ်တင်းတင်းပင် ပြည့်ခဲ့ပြီ။

စိတ်အစဉ်မှာတော့ မြတ်ဗုဒ္ဓ၏ သာသနာတော်ကြီး စည်ပင်ထွန်းကားနေသော အမိမြန်မာပြည်ကြီးကို အမြင်အာရုံ၊ အကြားအာရုံ၊ အတွေးအာရုံတို့ဖြင့် မြင်ယောင်နေဆဲ၊ ကြားယောင်နေဆဲ၊ အမှတ်ရနေဆဲပင်။

ဖြစ်ပုံခြင်းရာ ခံစားချက်စသည် အလီလီအားဖြင့် ကွဲပြားခြားနားနေသော်လည်း မဆီမဆိုင် လက်ဝဲသုန္ဒရအမတ်ကြီးကို အမှတ်ရနေမိပြန်သည်။ မဲဇာရောက် လက်ဝဲသုန္ဒရအမတ်ကြီးသည် ရွှေပြည်တော် (ရတနာသိင်္ဃမြို့တော်)ကြီးဆီသို့ တမ်းတမျှော်မိလေတိုင်း မျက်ရည်များပင် ဝိုင်းခဲ့သည်ဟု ဆို၏။ သူ့အတွေး၊ သူ့အာရုံ၊ သူ့အမြင်၊ သူ့စိတ်အစဉ်တို့သည် အတိတ်အကြောင်းများကို ပြန်၍ ခေါ်ယူနေမိ၏။ သာသနာတော်ကို သက်ဝင်ယုံကြည်သူပီပီ သာသနာရေးပွဲတော်များကို အထူးသတိရ

နေမိ၏။ အတွေးအာရုံဟုဆိုသော်လည်း သူ့စိတ်အစဉ်မှာတော့ အမြင်အာရုံတို့သည် ကြည်လင်ပီပြင်လှဘိခြင်း။

"ဒီအချိန်မှာဆိုရင် ရွှေမြို့တော်ကြီးဆီမှာ ..."

သူ့စိတ်အစဉ်၌ ထင်ရှားနေသည့် အမြင်အာရုံအားလုံးတို့ကို ကညစ်ဖြင့် ရေးမှတ်ခဲ့၏။ 'ပွဲခါညောင်ရေ၊ သွန်းမြဲပေတည်း ...' ရေးမှတ်ခဲ့သမျှကို ပြန်၍ စုစည်းလိုက်သောအခါ 'မဲဇာတောင်ခြေ' ရတုသည် သူ့ဘဝ၊ သူ့ဆန္ဒ၊ သူ့အတိတ်၊ သူ့အရိပ်အဖြစ်ဖြင့် သမိုင်းတွင် ထင်ကျန်ရစ်ခဲ့လေသည်။

စာရေးသူမှာ လက်ဝဲသုန္ဒရအမတ်ကြီးကဲ့သို့ သမိုင်းဝင်စာပေများကို ရေးဖွဲ့သီကုံးနိုင်သည့် စွမ်းအားမရှိပါ။ သို့သော် သာသနာယဉ်ကျေးမှု၊ ဘာသာယဉ်ကျေးမှု၊ မြန်မာတို့၏ ယဉ်ကျေးမှုများကို ခိုင်မာသော ယုံကြည်ချက်ဖြင့် ယုံကြည်ထားသူပီပီ သတိရမှု အတိုင်းအတာကား သူ့အောက်ယုတ်လျော့ခြင်း မရှိပေ။

ထို့ကြောင့် မြန်မာပြည်ရှိ သူငယ်ချင်းများထံမှ ဓမ္မစာစောင်များ၊ မြန်မာ့ယဉ်ကျေးမှုဆိုင်ရာ စာစောင်များကို လှူကြုံမှာယူ၍ ရသမျှကို မလွတ်တမ်း ဖတ်ရှုသည်။ မိမိအပါအဝင် ပြည်ပရောက် မြန်မာရဟန်းတော်များနှင့် မြန်မာမိသားစုများကို မြန်မာတို့၏ သာသနာယဉ်ကျေးမှု၊ ဘာသာဓလေ့ယဉ်ကျေးမှုများနှင့် ကင်းကွာသွားမည်ကို ကိုယ်တိုင်လည်း မလိုလား၊ အများအတွက်လည်း စိုးရိမ်ပူပန်နေမိသည်။

ရသမျှစာအုပ်ကလေးများထဲမှ မြန်မာပြည်၏ သာသနာရေးဆိုင်ရာ တိုးတက်မှု၊ ဆုတ်ယုတ်မှု စသော အကြောင်းအရာများကို ဖော်ညွှန်းသော သာသနာရေး၊ ဘာသာရေးဆိုင်ရာ ဆောင်းပါးများကို အထူးမှတ်သား လေ့လာခဲ့လေသည်။ ထိုစာစောင်များထဲမှ ၁၃၄၈- ခုနှစ်၊ တပို့တွဲလပြည့်ထုတ် 'သာသနာ့ရောင်ခြည်' စာစောင်မှာ 'သာသနာ

ရေးအတွက် ဆွေးနွေးချက်များ’ ဆောင်းပါးကို အမှတ်မထင် ဖတ်ရှုခဲ့ရ သည်၊ ဖတ်ရင်း၊ စဉ်းစားရင်း ရင်းတွင်း၌ အမည်ဖော်မပြတတ်သော ခံစားမှု ဝေဒနာတစ်မျိုးသည် တမုဟုတ်ချင်း ဖြစ်ပေါ်လာခဲ့ပေသည်။

‘သာသနာရေးအတွက် ဆွေးနွေးချက်များ’ဆောင်းပါး၌ မန္တလေးဆရာတော်ကြီးများ၏ သာသနာပြုစိတ်ဓာတ် လှုံ့ဆော်ရေးသြဝါဒ သည် လေးနက်လှဘိခြင်း။ အဓိပ္ပါယ်အားဖြင့်လည်း နက်ရှိုင်းကျယ်ဝန်း လှဘိခြင်း။ ဆရာတော်များ၏ မိန့်ဆိုလိုရင်း အဓိပ္ပါယ်ကို သိရှိသော ဆောင်းပါးရှင်ကလည်း အချိန်မီ စဉ်းစားပြုပြင်နိုင်ရေးအတွက် လေးနက်စွာ ဖော်ပြထား၏၊ သို့သော် စာဖတ်သူများအနေနှင့် လေးလေးနက်နက် စဉ်းမှစဉ်းစားကြပါမည်လားဟု တစ်ယောက်တည်း စဉ်းစားပူပန်နေမိပြန် သည်။

မန်းဆရာတော်များ၏ သြဝါဒ –

ဝိဇိတာရုံဆရာတော်၏ သြဝါဒမှာ “သာသနာ့ရောင်ခြည် စာ စောင်မှာ သာသနာပြုစိတ်ဓာတ် လှုံ့ဆော်ရေးဆောင်းပါးကို များများ ရေးစမ်းပါ၊ ရဟန်းတော်တွေရဲ့ သန္တာန်မှာ သာသနာပြုစိတ်ဓာတ် အလွန် အားနည်းနေတယ်၊ ဒီအတိုင်းဆိုလျှင် ဘုန်းကြီးတို့ သာသနာဟာ ဘုန်းကြီးတို့ မြန်မာပြည်မှာ မကြာမီ အဆက်ပြတ်သွားနိုင်တယ်။

မြို့ကြီးတွေမှာက ရဟန်းတစ်ပါးတလေ လျော့နည်းသွားတာနဲ့ ဘာမျှမထူးခြားဘူး၊ တောရွာတွေမှာက ရှိနေတဲ့ ရဟန်းတစ်ပါး လျော့ သွားရင် နောက်တစ်ပါးပြန်ရဖို့ မလွယ်လှဘူး၊ ဒါကြောင့် တောကနေ မြို့တက်ပြီး ပညာလာသင်ကြတဲ့ ရဟန်းတော်တွေအနေနှင့် မြို့ကြီးမှာ စာချဖို့၊ စာသင်တိုက်ဖွင့်ဖို့ အခြေအနေမပေးရင် ပညာသင်ကြားပြီး ပြင်ပဗဟုသုတတွေကို လေ့လာပြီးတာနှင့် မိမိကို အားကိုးတကြီး မျှော် တလင့်လင့် ဖြစ်နေကြတဲ့ မိဘဆွေမျိုးများရှိရာ ကိုယ့်ရပ်ရွာ ကိုယ့်ဒေသကို

ပြန်ပြီး သာသနာပြုကြဖို့ တာဝန်ကြွေး ဆပ်ကြဖို့ လိုအပ်နေပြီ''ဟူ၍ ဖြစ်ပါသည်။ အနာဂတ် သာသနာတော်အတွက် လုံးဝစိတ်မချနိုင်သေးဘဲ သာသနာတော်အတွက် အားမလို အားမရဖြစ်ရင်း အထက်ပါ ဩဝါဒ များကို မိန့်ကြားခဲ့ခြင်းဖြစ်သည်။

မစိုးရိမ်ဆရာတော် (ပိဋကနယပဒေသကျောင်း)၏ ဩဝါဒ–

''တို့ရဟန်းတော်တွေရဲ့သန္တာန်မှာ သာသနာစိတ် သာသနာ ပြုစိတ် လက်ရှိအခြေအနေထက် ပြင်းထန်လာအောင်၊ တက်ကြွနိုးကြား လာအောင် လုပ်ဆောင်ကြဖို့ လိုအပ်နေပြီ၊ တချို့ဆိုလျှင် သာသနာစိတ်၊ သာသနာပြုစိတ် အလွန်နည်းတယ်၊ တချို့ဆိုရင် လုံးဝမရှိသလောက်ပဲ၊ သင်္ကန်းရဲ့အရှိန်အဝါ၊ သာသနာတော်ရဲ့ အရှိန်အဝါကို ခုတုံးလုပ်ပြီး မိမိအတွက် လောကကြီးပွားရာ ကြီးပွားကြောင်းတွေ လုပ်နေကြတယ်။

ဗုဒ္ဓဘာသာ မိဘတွေ ကိုယ်တိုင်ကလည်း ဘာသာစိတ်၊ သာသနာစိတ် နည်းတယ်၊ ရဟန်းတော်တွေကို လှူဒါန်းထောက်ပံ့လျှင် ပြီးရောလို့ အောက်မေ့နေကြတယ်၊ သူတို့ရဲ့ သားငယ်တွေကို နွေရာသီ ကျောင်းပိတ်ရက် သင်္ကြန်ရက်လောက်သာ ရှင်ပြုရုံ၊ ရက်တစ်ပတ်၊ တစ်လ အလွန်ဆုံး ဘုန်းကြီးကျောင်းပို့တာ၊ ဒါလောက်ဆိုလျှင် ယောက်ျားကလေး တွေအဖို့ နည်းနည်းတော်သေးတယ်ထားဦး။

မိန်းကလေးတွေအဖို့ဆိုလျှင် သိပ်ဝမ်းနည်းဖို့ ကောင်းတယ်၊ ကိုယ့်ဘာသာ သာသနာနှင့် နီးစပ်မှု လုံးဝမရှိဘူး၊ မိဘက ဘာသာရေး အသိအမြင်ရှိလျှင် သိပ်မဆိုးလှသေးဘူးပေါ့၊ဗုဒ္ဓဘာသာ မြန်မာတိုင်းရင်းသူ မိန်းကလေးတွေ ဘာသာရေး အသိတရားနည်းပြီး၊ ဘာသာ သာသနာစိတ် မရှိခဲ့ကြလို့၊ အမျိုးဘာသာ သာသနာအပေါ် သစ္စာမစောင့်စည်းခဲ့ကြလို့ 'မြန်မာ'ဆိုတဲ့ နာမည်နောက်က ဘာသာခြားအမည်တွေ ပေါ်ပေါက်လာ ခဲ့ရတာ၊ ဒီအတိုင်းသာ ဆက်နေသွားကြလျှင်၊ ဒီအတိုင်းသာ ကြည့်နေကြ

လျှင်တော့ တို့သာသနာဟာ မကြာမီ ကွယ်ပျောက်သွားတော့မှာပဲ'' စသည်ဖြင့် မှတ်သားဖို့၊ လိုက်နာဖို့၊ ပြုပြင်ဖို့ကောင်းသော အားမာန်ပါသော ဩဝါဒတို့ကို ပေးခဲ့သည်။

## လက်လှမ်းမီသမျှ

အထက်ပါ အခြေအနေအရပ်ရပ်တို့ကို သုံးသပ်၍ တင်ပြလိုပါသည်။ စာရေးသူတို့ နေထိုင်ရာ ပီနန်မြို့၌ လူအများစုသည် (ရှစ်ဆယ်ရာခိုင်နှုန်း) ဗုဒ္ဓဘာသာ တရုတ်လူမျိုးများ ဖြစ်ကြသည်။ ဗုဒ္ဓဘာသာဟု ဆိုသော်လည်း ထေရဝါဒ၊ မဟာယာနအပြင် (TAOISM) ခေါ် နတ်ကိုးကွယ်မှုများလည်း ရောထွေးပါဝင်နေသည်။ မဟာယာနသည် ရှေးယခင်ကပင် ဦးစွာရောက်ရှိနေ၍ အားအကောင်းဆုံးဟု ဆိုနိုင်ပါ၏။ ထေရဝါဒဗုဒ္ဓဘာသာဝင်တို့သည် ထေရဝါဒ သာသနာပြန့်ပွားဖို့အတွက် ထေရဝါဒ ရဟန်းတော်များကို အားကိုးလိုစိတ်များ ရှိကြသည်။ သို့သော် ရဟန်းတော်အများစုသည် သာသနာပြုစိတ်ဓာတ် ခေါင်းပါးမှု၊ အချို့ သာသနာပြုစိတ်ဓာတ် ရှိကြသော်လည်း အခြားအခက်အခဲများ ရှိနေမှုကြောင့် သာသနာအတွက် အခက်ကြုံရတော့၏။

ထိုအခါ သာသနာရေးစိတ်ဓာတ် ရှိကြသော ကျောင်းဆရာ ဆရာမများသည် သက်ဆိုင်ရာ ရဟန်းသံဃာတော်တို့၏ လမ်းညွှန်ဩဝါဒကို ခံယူ၍ ဗုဒ္ဓဘာသာယဉ်ကျေးမှု အခြေခံများကို ကျောင်းသူ၊ ကျောင်းသားငယ်များအား သူတို့ကိုယ်တိုင် သင်ကြားပေးကြရသည်။

ကျောင်းစာကိုလည်း အနှောင့်အယှက်မဖြစ်စေရ၊ ဗုဒ္ဓဘာသာယဉ်ကျေးမှုအခြေခံများကိုလည်း သင်ကြားခွင့် ရကြရလေအောင် ရည်ရွယ်၍၊ တနင်္ဂနွေနေ့ နံနက်ပိုင်း သင့်တော်သောနေရာ၌ (တချို့

ဘုန်းကြီးကျောင်း၊ တချို့ စာသင်ကျောင်း၊ တချို့ ဓမ္မာရုံအတွင်း) 'ဆန်ဒေးစကူး' ကျောင်းများ ဖွင့်လှစ်ကာ ဘာသာရေးအခြေခံများကို အခမဲ့သင်ကြားပေးခဲ့ကြသည်။ သူတို့၏ ဆောင်ရွက်မှုများကြောင့် ကလေးသူငယ်များသည် ရတနာသုံးပါးအကြောင်း၊ ငါးပါးသီလ အကြောင်း၊ ကုသိုလ်ကံ၊ အကုသိုလ်ကံအကြောင်း၊ အတုယူဖွယ်ရာ ကောင်းသော ဇာတ်နိပါတ်တော်များအကြောင်း၊ ဓမ္မပဒဝတ္ထုများ အကြောင်း စသည်များကို အထိုက်အလျောက် သိရှိကြပေသည်။

## ဆရာတွေပါမှ ဖြစ်တော့မည်

ထိုအခြေအနေများနှင့် နှိုင်းယှဉ်၍ သာသနာထွန်းကားနေသော၊ မိမိသာသနာပြုလိုသည့် စိတ်ဓာတ်ရှိလျှင် စိတ်ရှိသလောက် သာသနာ အကျိုးကို သယ်ပိုးနိုင်သော မြန်မာပြည်လို ဗုဒ္ဓဘာသာနိုင်ငံတော်အတွက် ကြိုးစားမည်ဆိုလျှင် ကြိုးစားသလောက် ခရီးရောက်နိုင်ပါသည်။ ပထမ အဆင့်အနေနှင့် မြို့၌ ပရိယတ်၊ ပဋိပတ် သာသနာတော်အတွက် သာသနာ့တာဝန် တစ်ခုခုကို ထမ်းဆောင်မှုမရှိသော ရဟန်းတော်များကို မိမိတို့ ဆွေမျိုးများရှိရာ ကိုယ့်ရပ်ရွာ၊ ကိုယ့်ဒေသသို့ ပြန်ကြွပြီး သာသနာ ပြုကြရန် လှုံ့ဆော်ပေးသင့်သည်။

အကယ်၍ အကြောင်းအမျိုးမျိုးကြောင့် နေရာအသီးသီး၌ ရဟန်းသံဃာတော်များ လုံလောက်မှု မရှိခဲ့လျှင် အမျိုး၊ ဘာသာ၊ သာသနာတော်အတွက်နှင့် မြန်မာ့ယဉ်ကျေးမှုများ ကွယ်ပျောက်မသွား စေရန် ကျောင်းဆရာ၊ ဆရာမများပါ ပါဝင်ကူညီဆောင်ရွက်ပါမှ အချိန် မနှောင်းခင် အချိန်ကောင်းကို ရရှိနိုင်ပါလိမ့်မည်။ သို့မဟုတ်ပါက သာသနာတော်အတွက် အချိန်ကောင်းကို မျှော်ရင်း မျှော်ရင်း လော်ရင်း

နစ်သွားနိုင်ပါသည်။

တချို့က ဆိုကြ၏၊ ဗုဒ္ဓဘာသာ ရဟန်းရှင်လူ၊ လူကြီး၊ လူငယ်၊ ကျားမ မရွေး သာသနာစိတ်၊ မျိုးချစ်စိတ်ရှိကြဖို့ လိုအပ်၏ဟု ဆိုသည်။ ထိုသို့ ဆိုသော်လည်း ဒီလိုနေလို့တော့ ဘာသာ၊ သာသနာစိတ်များ မျိုးချစ်စိတ်များ အလိုလို ဖြစ်ပေါ်လာကြမည်ကား မဟုတ်ပေ။ ဖြစ်ပေါ် လာအောင် လုပ်ပေးဖို့က ပို၍ လိုအပ်နေပါသည်။ အထူးသဖြင့် အဖြူ ထည်သက်သက်မျှသာ ရှိသေးသော ကလေးသူငယ်များကို ဘာသာ၊ သာသနာစိတ်၊ မျိုးချစ်စိတ်များ ရှိလာအောင်၊ တိုးပွားလာအောင်၊ ခိုင်မြဲ လာအောင် လုပ်ပေးကြဖို့ အမြန်လိုအပ်နေပါသည်။

## သင်တန်းရက်နှင့် သင်ခန်းစာ

တစ်ပတ်မှာ တစ်ရက်၊ တစ်နှစ်မှာ ရက်သုံးဆယ်ခန့်၊ တနင်္ဂနွေ နေ့(သို့မဟုတ်) စနေနေ့နံနက်ပိုင်း (၈)နာရီမှ (၁၀)နာရီထိ၊ (၂)နာရီခန့် စာသင်ကျောင်းတိုင်း၊ အတန်းတိုင်း၌ ဗုဒ္ဓယဉ်ကျေးမှု အခြေခံကျမ်းစာ များကို သင်ကြားပေးသင့်ပေသည်။ ထိုသို့ သင်ကြားပေးခြင်းဖြင့် ကျောင်း သူ၊ ကျောင်းသားများ အတွက်လည်း ပညာရေးကို အနှောင့်အယှက် မဖြစ်စေနိုင်။ ဆရာ၊ ဆရာမများအတွက်လည်း တာဝန်မကြီးနိုင်ပေ။

တချို့က ဤသို့ ဆိုကြသည်။ ''နွေရာသီကျောင်းပိတ်ရက် အတွင်း တစ်ပတ်၊ နှစ်ပတ်လောက် သင်္ကန်းဆည်းပေးလိုက်လျှင် ဘာသာ ရေးအခြေခံအတွက် လုံလောက်တာပဲ''ဟူ၍လည်းကောင်း၊ သားသမီး များကို အလိုလိုက်လွန်းသော မိဘများကလည်း''ကလေးတွေ ကျောင်းစာ သင်ရ၊ ဘာသာရေးစာတွေ သင်ရနဲ့ ပင်ပန်းလှပါတယ်။ နွေရာသီကျောင်း ပိတ်တုန်း နားပါစေ''စသည်ဖြင့် နွေရာသီ ဗုဒ္ဓဘာသာယဉ်ကျေးမှု

အခြေပြုသင်တန်းများကို မတက်စေဘဲ အိမ်မှာနားစေခြင်း၊ အပျော်ခရီး ထွက်ခြင်း စသည်များဖြင့် နွေရာသီအားလပ်ချိန်ကို ကုန်လွန်သွားစေပါသည်။

မှန်ပေသည်၊ နွေရာသီဗုဒ္ဓဘာသာယဉ်ကျေးမှု သင်တန်းများ၌ ကျောင်းသားတစ်ထောင်မှ အလွန်ဆုံး တစ်ရာလောက်သာ သင်တန်း တက်ရောက်လာနိုင်ခြင်းကို ထောက်ရှုခြင်းအားဖြင့် သိနိုင်ပေသည်။ ဤနွေရာသီ ဗုဒ္ဓယဉ်ကျေးမှုသင်တန်းများကို အမြော်အမြင် ကြီးမားစွာ ရည်ရွယ်ချက် ကောင်းကောင်းဖြင့် ဖွင့်လှစ်ပေးခဲ့သော်လည်း လိုက်နာ ကျင့်သုံးမှုအပိုင်း၌ များစွာလိုအပ်နေပါသည်။ ဤ လက်ရှိအခြေအနေ သည် ကျောင်းသား(၁၀)ယောက်မှ တစ်ယောက်သာ တက်ရောက်လာ နိုင်သော နည်းဖြစ်၍ ဤနည်းဖြင့်လည်း မလုံလောက်သေးပေ။

အကယ်၍ စာသင်ကျောင်းများ၌ တစ်ပတ်တစ်ရက် သင်ကြား ပေးနိုင်မည်ဆိုလျှင် သင်ကြားပေးရန် အသင့်တော်ဆုံးကျမ်းစာမှာ တောင် မြို့ဆရာတော် အရှင်ဇနကာဘိဝံသ၏ 'ဗုဒ္ဓဘာသာသင်ခန်းစာ' ကျမ်း စာအုပ်ဖြစ်သည်။ သူငယ်တန်းမှစ၍ တန်းစဉ်အလိုက်ခွဲခြားပြီး၊ အထူး စီစဉ်ရေးသားထားသော ကျမ်းစာဖြစ်၍ သင်ကြားပေးသော ဆရာ၊ ဆရာမများအတွက်လည်း ခက်ခဲနိုင်စရာ အကြောင်းမရှိပေ။ ထို့ကြောင့် ဘာသာ၊ သာသနာ၊ ယဉ်ကျေးမှုပြန့်ပွားဖို့အတွက် နွေရာသီသင်တန်း များလည်း ဆက်လက်ဖွင့်၊ စာသင်ကျောင်းများ၌လည်း တစ်ပတ်တစ်ရက် သင်ကြားပေးခြင်းဖြင့် တိုးတက်မှုအတိုင်းအတာသည် ပို၍ထိရောက် လိမ့်မည်ဟု ထင်မြင်ယူဆပါသည်။

## ဆရာအခက်ခဲရှိနိုင်မလား

သဘောတူရာ အတန်းလိုက်ပေါင်းသင်သောနည်းဖြစ်၍ ဆရာ၊ ဆရာမအားလုံး ကူညီဖို့မလိုပါ။ အမျိုး၊ ဘာသာ၊ သာသနာစိတ်ရှိသော ဆရာ၊ ဆရာမများသာ လိုအပ်ပါသည်။ ဗုဒ္ဓဘာသာယဉ်ကျေးမှုများကို သင်ကြားပေးခါစ၌ ဆရာ၊ ဆရာမတို့အတွက် အခက်အခဲရှိမည်ဆိုလျှင် မိမိတို့နှင့် သက်ဆိုင်ရာကျောင်းတိုက်များ(သို့မဟုတ်) သင့်တော်သော ကျောင်းတိုက်များမှ သာသနာစိတ်ဓာတ်ရှိပြီး အဆင်ပြေသင့်တော်သော ရဟန်းသံဃာတော်များကို အကူအညီတောင်းမည်ဆိုပါက ရဟန်းသံဃာတော်တို့ဘက်မှလည်း အကူအညီပေးရန် ဝန်လေးနိုင်စရာအကြောင်း မရှိပေ။

"ကလေးတွေ သိပ်ပင်ပန်းပြီး ဘာသာရေးသင်ခန်းစာများ၌ ငြီးငွေ့မှု ဖြစ်မသွားနိုင်ဘူးလား"ဟု တစ်ဖက်မှလှည့်၍ မေးမည်ဆိုက မေးနိုင်ပါသည်။ ကလေးအတွက် ပင်ပန်းမှုမဖြစ်ပါ။ ကလေးသူငယ်များသည် ဘာသာရေး၌ စိတ်ဝင်စားကြပါသည်။ စာရေးသူသည် မဟာစည်သာသနာ့ရိပ်သာကြီးတွင် နွေရာသီ ရှင်ငယ်သင်တန်းများ၌ သင်တန်းဆရာအဖြစ် တာဝန်ထမ်းဆောင်ခဲ့စဉ်က ရှင်သာမဏေငယ်များ၊ သီလရှင်ငယ်လေးများအား ရတနာသုံးပါးအကြောင်း၊ ငါးပါးသီလအကြောင်း၊ ဇာတ်နိပါတ်တော်လာ အတုယူဖွယ်ကောင်းသော ပုံဝတ္ထုစသည်များကို ပြောပြလျှင် သူတို့တစ်တွေ အလွန်ပျော်ရွှင်ကြ၊ အလွန်စိတ်ဝင်စားကြပြီး၊ မျက်တောင်မခတ် မျက်လုံးဝိုင်းလေးများနှင့်၊ တချို့ဆိုလျှင် မပွင့်တပွင့် ဟထားသော ပါးစပ်ကလေးများနှင့် ငြိမ်သက်စွာ နားထောင်နေကြသည်ကို စာရေးသူ၏ စိတ်အစဉ်၌ မြင်ယောင်နေဆဲပင် ရှိပါသည်။

## ဘာအကျိုးများ ရနိုင်မလဲ

ဘာသာ၊ သာသနာစိတ်၊ မျိုးချစ်စိတ်ရှိကြသော ဆရာ၊ ဆရာမများသည် သက်ဆိုင်ရာအတန်းလိုက် မူလတန်းမှစ၍ (၇)တန်း (သို့မဟုတ်) (၈)တန်းအထိ တန်းစဉ်အလိုက် ဗုဒ္ဓဘာသာယဉ်ကျေးမှုများကို သင်ကြားပေးကြမည်ဆိုပါလျှင် ကျောင်းသား၊ ကျောင်းသူငယ်လေးများသည် ဘာသာ၊ သာသနာစိတ်၊ မျိုးချစ်စိတ်များ တိုးပွားလာနိုင်ပါသည်။ အသိဉာဏ်များလည်း တဖြည်းဖြည်းရင့်ကျက်လာပြီး ဘာသာနှင့်သာသနာ၊ တိုင်းပြည်နှင့်လူမျိုးကို ချစ်ခင်သည့်စိတ်၊ မြတ်နိုးသည့်စိတ်၊ သစ္စာရှိသည့်စိတ်များလည်း မလွဲမသွေ ဖြစ်ထွန်းလာနိုင်ပါသည်။ ကိုယ်ကျင့်တရားလည်း အထူးကောင်းမွန်လာနိုင်ပါသည်။

ထို့ကြောင့် ဘာသာ၊ သာသနာအတွက် တာဝန်လည်းမကြီးလေး၊ လိုအပ်သောအကျိုးကျေးဇူးများကိုလည်း ဖြစ်ထွန်းစေနိုင်သဖြင့် ဘာသာစိတ်၊ သာသနာစိတ်၊ မျိုးချစ်စိတ်ရှိကြသော ဆရာ၊ ဆရာမများသည် ဘာသာနှင့် သာသနာ၊ တိုင်းပြည်နှင့်လူမျိုးအတွက် လက်တွဲပါဝင်ကူညီကြပါရန် မေတ္တာဖြင့် တိုက်တွန်းရေးသားလိုက်ရပါသတည်း။



# လှိုက်လှဲစွာကြိုဆိုပါသည်

မြန်မာနိုင်ငံ၌ ဘုန်းတော်ကြီးကျောင်း ပညာသင်ကြားရေး စနစ်ကို ပြန်လည်ကျင့်သုံးစေပြီဆိုသည့် သတင်းစကားများသည် ပြည်ပ ရောက် စာရေးသူအတွက် မင်္ဂလာရှိသော သတင်းများပင်ဖြစ်သည်။

မြန်မာနိုင်ငံတော်သည် အနော်ရထာမင်းလက်ထက်မှစ၍ မြန်မာ့ယဉ်ကျေးမှုနှင့် နိုင်ငံတော်၏ ဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံကို ဗုဒ္ဓ တရားတော်ဖြင့် အခြေခံကာ အုတ်မြစ်ချခဲ့၏။ သမိုင်းအဆက်ဆက်၊ ရာဇဝင်အဆက်ဆက် ဗုဒ္ဓယဉ်ကျေးမှုဖြင့် မြန်မာ့ယဉ်ကျေးမှုကို အသရေ တိုးစေခဲ့၏။ ကမ္ဘာ့အလယ်မှာ မြန်မာ့ယဉ်ကျေးမှုသည် သမိုင်းတစ် လျှောက်လုံး၊ ရာဇဝင်တစ်လျှောက်လုံး နို့နှင့်ရေပမာ တစ်သားတည်းရှိနေ ခဲ့သည်။ ထိုကဲ့သို့ ကမ္ဘာ့အလယ်မှာ မျက်နှာမငယ် အသရေရှိရှိ နေနိုင် ခဲ့မှုသည် ဘုန်းတော်ကြီးကျောင်း ပညာရေးစနစ်ကြောင့်ဟုဆိုလျှင် မှားအံ့ မထင်။

ယခင်ကဆိုလျှင် ဘုန်းတော်ကြီးကျောင်း ပညာရေးစနစ်သည် ရှင်ဘုရင်ကအစ ကျေးရွာသူ ကျေးရွာသားများအထိ ဗုဒ္ဓယဉ်ကျေးမှုနှင့် လောကီ လောကုတ္တရာ အတတ်ပညာမျိုးစုံကို သင်ကြားပေးနိုင်ခဲ့၏။ ပညာရှိ၊ ပညာတတ်၊ ဝန်ကြီး၊ ဝန်လေး၊ အမှုထမ်း၊ အရာထမ်း၊ ကုန်သည်၊ လယ်လုပ်၊ ဓားမခုတ်ဘဝအထိ သူတို့အားလုံးသည် ဘုန်းကြီးကျောင်းသားများသာ ဖြစ်ခဲ့ကြ၏။ ထိုခေတ် ထိုအခါကဆိုလျှင် ဘုန်းတော်ကြီးကျောင်းများသည် တက္ကသိုလ်ဆိုလည်းဟုတ်၊ အထက်တန်းကျောင်း၊ အလယ်တန်းကျောင်း၊ မူလတန်းကျောင်းဆိုလည်း ဟုတ်၏။ ဘုန်းတော်ကြီးများသည်လည်း ဆရာဆိုလည်းဟုတ်၊ သံဃာဆိုလည်း ဟုတ်၏။ ထိုဘုန်းတော်ကြီးကျောင်း ပညာရေးစနစ်ကြောင့် ဗုဒ္ဓဘာသာ မြန်မာလူမျိုးတို့သည် ဘာသာတရားကို လေးစားခဲ့ကြသည်။ မြတ်နိုးခဲ့ကြသည်။ ကြည်ညိုခဲ့ကြသည်။ ဗုဒ္ဓတရားတော်၏ ဂုဏ်ကျေးဇူး၊ သံဃာတော်များ၏ ဂုဏ်ကျေးဇူးတို့ကြောင့် မြန်မာလူမျိုးတို့သည် အချင်းချင်း သွေးစည်းညီညွတ်ခဲ့ကြ၏၊ ချစ်ခင်မြတ်နိုးခဲ့ကြ၏၊ အကြင်နာတွေ ပိုခဲ့ကြ၏၊ ကမ္ဘာ့ငြိမ်းချမ်းရေးကို ရှေ့တန်းမှ လိုလားသူတွေ ဖြစ်ခဲ့ကြ၏၊ သို့သော် မြန်မာနိုင်ငံတော်သည် သူ့ကျွန်ဘဝ ကျရောက်ပြီးသည့် အချိန်မှစ၍ ထိုဘုန်းတော်ကြီးကျောင်း ပညာသင်ကြားရေးစနစ်သည် တဖြည်းဖြည်း မှေးမှိန်ခဲ့ရ၏။

## အကြံပြုချက်

သမိုင်းစဉ်တစ်လျှောက်၊ ရာဇဝင်တစ်လျှောက် ဘုန်းတော်ကြီးကျောင်း ပညာသင်ကြားရေးစနစ်ကြောင့် အစဉ်အလာကြီးခဲ့သော မြန်မာနိုင်ငံတော်၏ သမိုင်းကို ပြန်လည်သုံးသပ်ရမည်ဆိုပါလျှင် မြန်မာနိုင်ငံ

တော်သည် သမိုင်းစဉ်တစ်လျှောက်လုံး စီးပွားရေးရှုထောင့်၊ ပညာရေး ရှုထောင့်၊ လူမျိုးရေးရှုထောင့်၊ ဘယ်ရှုထောင့်က ကြည့်ကြည့် အကောင်း ဘက်က များခဲ့၏။ အာရှနိုင်ငံများအလယ်တွင် မျက်နှာကြီးခဲ့၏။ ဂုဏ် သရေရှိခဲ့၏။ 'မြန်မာလူမျိုး' ဆိုလျှင် ကမ္ဘာ့လူသားတို့အမြင်၌ 'ယဉ်ကျေး ပျူငှာသောလူမျိုး' ဟု မှတ်တမ်းတင်ခဲ့ကြ၏။ အဘယ်ကြောင့်ဆိုသော် ဘုန်းတော်ကြီးကျောင်း ပညာရေးစနစ်ဖြင့် မြန်မာလူမျိုးတို့အား လောကီ၊ လောကုတ္တရာ အတတ်ပညာရပ်၊ အသိပညာရပ်များအပြင် ဗုဒ္ဓယဉ်ကျေး မှုကိုပါ အထူးသင်ကြားပေးခဲ့သောကြောင့် ဖြစ်၏။

ထို့ကြောင့် ဖြစ်နိုင်လျှင် နိုင်ငံတော်အစိုးရမှ ဘုန်းတော်ကြီး ကျောင်း ပညာသင်ကြားရေးစနစ်အပြင် ဘုန်းတော်ကြီးသင် မူလတန်း ကျောင်းများကိုပါ အနယ်နယ်အရပ်ရပ်၌ ဖွင့်လှစ်ပေးသင့်ပါသည်။ ထိုမှ တစ်ဆင့် ဘုန်းတော်ကြီးသင် အလယ်တန်းကျောင်းများ၊ အထက်တန်း ကျောင်းများ၊ တက္ကသိုလ်ကျောင်းများအထိ တိုးချဲ့ဖွင့်လှစ်ပေးရန်ဖြစ်၏။ ထိုကဲ့သို့ ပြုလုပ်ပေးခြင်းဖြင့် မြန်မာနိုင်ငံတော်၏ ဘုန်းတော်ကြီးကျောင်း ပညာရေးစနစ်သည် ပြန်လည်အသက်ရှင်လာနိုင်ပြီး မြန်မာလူမျိုးများ အတွက်ရော၊ ဗုဒ္ဓဘာသာကို စိတ်ဝင်စားကြသော ကမ္ဘာ့လူသားများ အတွက်ပါ အကျိုးများနိုင်ဖွယ်ရှိသည်။

## ဘုန်းတော်ကြီးများလည်း ပါဝင်ကူညီ

မြန်မာနိုင်ငံတော်အစိုးရ၏ အားပေးကူညီ ပံ့ပိုးမှုကြောင့် အသက်ပြန်ဝင်လာပြီဖြစ်သော ဘုန်းတော်ကြီးကျောင်း ပညာသင်ကြား ရေးစနစ်၌ သင်ကြားပြသရန် အသင့်တော်ဆုံးဖြစ်သော ဆရာများ စာရင်းတွင် ဘုန်းတော်ကြီးများလည်း ပါဝင်သင့်သည်။ အဘယ်ကြောင့်

ဆိုသော် မြန်မာနိုင်ငံရှိ ကျေးရွာတိုင်း၌ ဘုန်းကြီးကျောင်း တစ်ကျောင်းတော့ အနည်းဆုံးရှိ၏။ ရွာကြီးလျှင် နှစ်ကျောင်း၊ သုံးကျောင်းထိပင် ရှိတတ်၏။ နောက်ပြီး ကျေးရွာတိုင်း၌ မူလတန်းကျောင်း မရှိ၊ အကယ်၍ နိုင်ငံတော်အစိုးရမှ ဘုန်းတော်ကြီးသင် မူလတန်းကျောင်းများကို ကူညီပံ့ပိုး၍ အားပေးမည်ဆိုလျှင် ထိုဘုန်းကြီးကျောင်းသည်ပင် မူလတန်းကျောင်း ဖြစ်လာနိုင်၏။ ထိုကျောင်းရှိ ဘုန်းတော်ကြီးသည် လောကီ၊ လောကုတ္တရာပညာများ အခြေခံမှစ၍ သင်ယူထားပြီးသူဖြစ်ပါက ထိုမူလတန်းကျောင်း၏ ကျောင်းအုပ်ဆရာလည်း ဖြစ်လာနိုင်၏။ စာပေကို သင်ကြားပေးသောဆရာကို လေးစားတတ်သော မြန်မာလူမျိုးတို့သည် ထိုဘုန်းကြီးအပေါ်၌ 'ဆရာဟူသောစိတ်ထား'ဖြင့် လေးစားမြတ်နိုးကြမည်ဖြစ်၏။ 'သံဃာဟူသောစိတ်ထား'ဖြင့် ကြည်ညိုဆည်းကပ်ကြမည် ဖြစ်၏။ 'လောကီဆရာ'ဟူသော အတွေးဖြင့် အပြစ်ဘက်ကို ရှေးရှု၍ မတွေးသင့်ပါ။ အခုချိန်မှာ ဗုဒ္ဓဘာသာ မြန်မာလူမျိုးတို့သည် အနာဂတ်သာသနာတော်အတွက်၊ အနာဂတ် အမိမြန်မာနိုင်ငံတော်အတွက် လေးလေးနက်နက် စဉ်းစားရမည့် အချိန်အခါ ဖြစ်၏။ လေးလေးနက်နက် စဉ်းစားလေလေ အနာဂတ်သာသနာတော်အတွက် ရင်မအေးနိုင်လေလေ ဖြစ်ရသည်။

ရဟန်းတော်များသည် ကျောင်းသူကျောင်းသားများအား အတန်းပညာကို သင်ကြားပေးကြခြင်းဖြင့် အပြစ်ဖြစ်ဖို့ထက် အကျိုးဖြစ်ထွန်းမည့်ဘက်က အလေးသာပါ၏။ လောကီပညာကို အခြေခံ၍ လောကုတ္တရာ ပညာများကိုလည်း အလျဉ်းသင့်သလို သင်ကြားပေးနိုင်မည်ဖြစ်၏။ ထိုကဲ့သို့ ပြုလုပ်ပေးခြင်းဖြင့် ရဟန်းတော်များသည် အမျိုးဘာသာ သာသနာတော်ကို တစ်ဖက်တစ်လမ်းမှ စောင့်ရှောက်နေခြင်းဖြစ်၏။ ကူညီပံ့ပိုးနေခြင်းဖြစ်၏။ ဘာသာတရားတစ်ခု ပျောက်ကွယ်သွား

ပြီဆိုလျှင် ထိုဘာသာတရား ပြန်လည်ရှင်သန်ဖို့ဆိုတာ မလွယ်ကူလှချေ။ လူမျိုးတစ်မျိုး ကွယ်ပျောက်သွားပြီဆိုလျှင်လည်း ထိုလူမျိုးစု ပြန်လည်ရှင်သန်ဖို့ဆိုတာ လုံးဝ မဖြစ်နိုင်တော့ချေ။ အဖြစ်အပျက်များသည် အများအပြားရှိကြသည်။ စာရေးသူတို့၏ သမိုင်းမျက်မြင် ကိုယ်တွေ့များပင် ဖြစ်၏။ အမျိုးဘာသာ သာသနာတော်အတွက် လေးလေးနက်နက် စဉ်းစားကြပါလေ။

တောခေါင်လွန်းသော အရပ်ဒေသများ၌ မူလတန်းကျောင်း တစ်ကျောင်းဖြစ်ဖို့ဆိုတာလည်း ခက်ခဲသောအနေအထားမှာ ရှိနေဆဲ ဖြစ်၏။ ထိုအရပ်ဒေသများ၌ မူလတန်းကျောင်းရှိသည်ထားဦး၊ ဆရာ အခက်အခဲ ရှိပြန်၏။ ဆရာရှိသည့် ရွာများ၌ ကျောင်းသားဦးရေနှင့် ဆရာ မမျှမတဖြစ်နေ၏။ စာရေးသူတို့ရွာ၌ ကျောင်းသားဦးရေက နှစ်ရာကျော်၊ ကျောင်းဆရာက နှစ်ယောက်တည်း ရှိ၏။ ဆရာသင် မူလတန်း ကျောင်းဖြစ်၍ ဘုန်းတော်ကြီးများအတွက် အသိ လိမ္မာ ဉာဏ်ပညာများကို ပေးနိုင်စွမ်းရှိသော ဗုဒ္ဓယဉ်ကျေးမှုများကို သင်ကြားပေးရန် အချိန်မရှိ၊ နေရာမရှိ၊ ကျောင်းသားမရှိ ဖြစ်နေ၏။ ဆရာ၊ ဆရာမများ အတွက်လည်း ကျောင်းသင်ခန်းစာမှလွဲ၍ တခြားဘာစာကိုမှ သင်ကြားချိန်မရှိ။ ထို့ကြောင့် စာရေးသူတို့ ငယ်စဉ်က ရဟန်းသာမဏေတို့ဖြင့် ဝင်းဝါနေခဲ့သော အချို့သော တောကျောင်းများ၌ ယခုအခါ ရဟန်းသာမဏေတို့ မရှိတော့ပြီတကား။

အကယ်၍သာ ဘုန်းတော်ကြီးကျောင်း ပညာသင်ကြားရေး စနစ်၌ ဘုန်းတော်ကြီးသင် မူလတန်းကျောင်းမျိုး ဖြစ်ခဲ့မည်ဆိုပါလျှင် ရွာသူ၊ ရွာသားများသည်လည်းကောင်း၊ ထိုသူတို့၏ ကလေးသူငယ်များသည်လည်းကောင်း၊ တောရွာပျော် ဘုန်းတော်ကြီးများကို ဆရာဟူသော အမှတ်ဖြင့် ကြည်ညိုဆည်းကပ်ကြလိမ့်မည်။ စိတ်စေတနာ အရင်းခံဖြင့်

လေးစားမြတ်နိုးကြလိမ့်မည်။ ဆရာကို လေးစားသည့်စိတ်၊ မြတ်နိုးသည့် စိတ်၊ ကြည်ညိုသည့်စိတ်များဖြင့် တချို့မူလတန်းအောင် ကျောင်းသား များသည် သာသနာ့ဘောင်သို့ ဝင်ရောက်လာကြမည်ဖြစ်၏။ အကယ်၍ သူတို့တစ်တွေ အကြောင်းအမျိုးမျိုးကြောင့် လူ့ဘောင်သို့ ပြန်ထွက်သွား ကြရသည့်တိုင် အမျိုးဘာသာ သာသနာကို လေးစားသည့် စိတ်ထား၊ မြတ်နိုးသည့် စိတ်ထားများသည် အမြဲတမ်း ကိန်းအောင်းနေ ကြမည်သာ ဖြစ်၏။ ထို့ကြောင့် ဘုန်းတော်ကြီးကျောင်း ပညာသင်ကြားရေးစနစ်၌ ဘုန်းတော်ကြီးများသည် အချိန်ပိုင်း ဆရာအဖြစ်သော်လည်းကောင်း၊ အချိန်ပြည့် ဆရာအဖြစ်သော်လည်းကောင်း အနာဂတ်သာသနာတော် အတွက် ပါဝင်ကူညီသင့်ပေသည်။

## ဘာသန္တရ သင်ယူသင့်

အနာဂတ် သာသနာတော်အတွက် ရေတို ရေရှည်စီမံကိန်း အရလည်းကောင်း၊ အနာဂတ် အမိမြန်မာပြည်အတွက် ရေတိုရေရှည် ပညာရေးစနစ်အရလည်းကောင်း၊ ဘုန်းတော်ကြီးများ ဘာသန္တရခေါ် သည့် အင်္ဂလိပ်စာနှင့် သင်္ချာကို သမိုင်းပေးတာဝန်အရ သင်မှဖြစ်တော့ မည်။ အင်္ဂလိပ်စာနှင့် သင်္ချာကို ရဟန်းသာမဏေတို့အား သင်ကြားခွင့် ပေးခဲ့လျှင်၊ပရိယတ်စာမေးပွဲများ၌ ထိုဘာသာရပ်နှစ်ခုပေါင်း၍ ဘာသာရပ် တစ်ခုအနေဖြင့် တရားဝင်ပြဋ္ဌာန်းပေးခဲ့လျှင် ရဟန်းသာမဏေများ လောကီစာ၌သာ အားသန်၍ လောကုတ္တရာစာပေ၌ အားနည်းမသွားနိုင် ပေဘူးလားဟု မေးမည့်သူတွေကလည်း ဒုနှင့်ဒေး။ ပညာရေးအတွက် ပြဋ္ဌာန်းချက် စည်းမျဉ်းစည်းကမ်းများအပေါ်၌ မူတည်နေပါသည်။ အကောင်းလည်း ဖြစ်နိုင်သည်၊ အဆိုးလည်း ဖြစ်နိုင်သည်။ သို့သော်

အနာဂတ် သာသနာတော်အတွက် အနာဂတ်နိုင်ငံတော်အတွက် ရည်ရွယ်ချက်ကောင်းကောင်းဖြင့် စနစ်တကျ ပြဌာန်းပေးမည် ဆိုပါက အကျိုးများမည့်ဘက်က အလေးသာပါသည်။

## နည်းလမ်းများ ရှာဖွေပေးကြပါ

ပထမငယ်၊ ပထမလတ်၊ ပထမကြီးတန်းနှင့် ဓမ္မာစရိယခေါ် စာချတန်းများ၌ ရဟန်းသာမဏေတို့ကို အခြေခံရရုံမျှ တီးမိ၊ ခေါက်မိ ရုံမျှ အင်္ဂလိပ်စာနှင့် သင်္ချာကို ပေါင်း၍ နောက်ထပ် ဘာသာရပ်တစ်ခု အဖြစ်ဖြင့် ထည့်ပေးသင့်ပါသည်။ သို့သော် ထိုဘာသာအတွက် မပင်မပန်းဘဲ သင်ယူနိုင်သော အဆင့်လောက်သာ ဖြစ်သင့်ပါ၏။ ဘာသာတွေများ၍ ရဟန်းသာမဏေများ ဘာသာရေး သင်ခန်းစာများ၌ ငြီးငွေ့မသွားနိုင်လေဘူးလားဟု တစ်ဖက်မှ လှည့်မေးမည်ဆိုက မေးနိုင်ပါ၏။ သို့သော် ရဟန်းသာမဏေများ ထိုဘာသာရပ်ကို သင်ယူရန် နှစ်သက်မြတ်နိုးကြ၍ ပင်ပန်းကြမည် မဟုတ်ပါ။ အကယ်၍ ဒီအစီအစဉ်လည်း သူတို့အတွက် ဝန်လေးနေကြဆဲပင် ရှိနေပါလျှင် ထိုအင်္ဂလိပ်စာနှင့် သင်္ချာဘာသာကို စိတ်ကြိုက်ဘာသာအဖြစ်ဖြင့် ထားရှိပြီး ထိုဘာသာကို ယူလိုကယူ၊ မယူလိုကလည်း မယူဘဲနေနိုင်သည့် အနေအထားမျိုးဖြင့်သာ ပြဌာန်းပေးသင့်ပါသည်။ သို့သော် ဓမ္မာစရိယပြီးသော ရဟန်းသာမဏေတို့အတွက် ပရိယတ္တိစာပေသင်ကြားရေး၌ အဆီးအတားများ ဖြစ်ဖွယ်မရှိတော့၍ သူတို့ကိုယ်တိုင်က ထိုဘာသာရပ်များကို ဆက်လက်သင်ကြားလိုစိတ် ရှိနေမည်ဆိုလျှင် အနာဂတ်သာသနာတော်အတွက် အင်္ဂလိပ်စာနှင့် သင်္ချာကို တရားဝင်သင်ကြားခွင့် ပေးသင့်ပါသည်။

ထိုဘာသာများ သင်ကြားခွင့်ရရေးအတွက် ဖွင့်ထားပြီးဖြစ်သော

ကျောင်းထိုင်ဘုန်းကြီးသင်တန်းကျောင်းများဖြင့် မလုံလောက်နိုင်သေးပါ။ နိုင်ငံတော်မှ ဖွင့်လှစ်ထားသော သံဃာ့တက္ကသိုလ်ကြီးများ၌လည်းကောင်း၊ ဝိဇ္ဇာတက္ကသိုလ်များ၌လည်းကောင်း အလွတ်သင်(စာပေးစာယူ)သင်တန်း သားများအဖြစ် တရားဝင် ခွင့်ပြုသင့်ပါသည်။ ရဟန်းသာမဏေများကို အင်္ဂလိပ်စာနှင့် သင်္ချာကို တရားဝင် သင်ကြားစေခြင်းဖြင့် အနာဂတ် သာသနာတော်အတွက် အကျိုးများစွာ ဖြစ်ထွန်းပါလိမ့်မည်။

စာရေးသူ၏ အတွေ့အကြုံအရ တချို့နိုင်ငံ (သီရိလင်္ကာနှင့် အိန္ဒိယ)များ၌ မြန်မာနိုင်ငံတော် သာသနာရေးဦးစီးဌာနမှ ကြီးမှူးကျင်းပ ပြုလုပ်ပေးသော ဓမ္မာစရိယစာချတန်းကို အောင်မြင်ပြီးသော ရဟန်း သာမဏေများကို သူတို့နိုင်ငံများ၌ ဆက်လက်ပညာသင်ကြားကြမည် ဆိုလျှင် ဝိဇ္ဇာဘွဲ့ အောင်မြင်ပြီးသူများနှင့် တန်းတူရည်တူထား၍ တက္ကသိုလ်ကြီးများ၌ ပညာသင်ကြားခွင့်ပေးသည်။ ထို့ကြောင့် မြန်မာနိုင်ငံမှ ဓမ္မာစရိယတစ်မျိုးမျိုးကို အောင်မြင်ပြီးသော ရဟန်းသာမဏေများသည် (အင်္ဂလိပ်စာ လိုက်နိုင်မည်ဆိုပါလျှင်) မဟာဝိဇ္ဇာတန်းကို တက် ရောက်သင်ကြားခွင့်ရှိ၏။ (ယခုအခါ ထိုတက္ကသိုလ်ကြီးများ၌ မြန်မာ ပြည်မှ ဓမ္မာစရိယအောင်မြင်ပြီးကြသော ရဟန်းတော်များ နှစ်ဆယ် အထက်မှာ ရှိနေပါသည်။) မြန်မာနိုင်ငံ၌ အစဉ်အလာမရှိ၍ ထိုကဲ့သို့ ပြုလုပ်မပေးနိုင်သော်လည်း ဓမ္မာစရိယ အောင်မြင်ပြီးသော ရဟန်း သာမဏေများကို ဝိဇ္ဇာဖြင့်အောင်မြင်သော ဆယ်တန်းအဆင့်လောက် တော့ တရားဝင်အသိအမှတ်ပြုပေးသင့်ပါသည်။ ထိုသို့ အသိအမှတ်ပြု ပေးခြင်းဖြင့် ပညာကို လိုလားသော ရဟန်းသာမဏေတို့အတွက် ဝိဇ္ဇာ တက္ကသိုလ်များ၌ (အင်္ဂလိပ်စာလိုက်နိုင်မည်ဆိုလျှင်) အဝေးသင် စာပေး စာယူ သင်တန်းသားများအဖြစ် ပညာသင်ယူနိုင်ကြမည်ဖြစ်၏။ သို့မဟုတ်ပါက သံဃာ့တက္ကသိုလ်ကြီးများ၌ အင်္ဂလိပ်စာနှင့် သင်္ချာကို

စိတ်ကြိုက်ဘာသာရပ် တစ်ခုအနေဖြင့် ပြဋ္ဌာန်းပေးသင့်ပါသည်။

အင်္ဂလိပ်စာနှင့် သင်္ချာဘာသာများကို တတ်မြောက်ထားကြသော (တစ်နည်းဆိုရလျှင်) ဝိဇ္ဇာဘွဲ့အောင်မြင်ထားကြသော ရဟန်းသာမဏေများသည် ကိုယ့်ရပ်ဌာနေများသို့ ပြန်ကြွကြပြီး၊ သူတို့သင်ယူတတ်မြောက်ထားသော လောကီ လောကုတ္တရာ စာပေများကို ရွာသူရွာသားများအား စိတ်အားထက်သန်စွာဖြင့် ပြန်လည်ပို့ချကြမည်ဖြစ်၏။ ခြွင်းချက်အနေအားဖြင့် တချို့လည်း အကြောင်းအမျိုးမျိုး၊ တာဝန်အမျိုးမျိုးကြောင့် တောရွာများသို့ ပြန်ကြွနိုင်ကြမည် မဟုတ်ပါ။ ''အင်္ဂလိပ်စာနှင့် သင်္ချာတတ်မြောက်လျှင် ဘီအေအောင်မှ မဟုတ်ပါဘူး၊ တောရွာများ၌ လောကီပညာများ သင်ကြားပေးလို့ မရနိုင်ဘူးလား''ဟု မေးစရာတော့ ရှိပါ၏၊ ရနိုင်ပါ၏။ သို့သော် ပန်းတိုင်မရှိသော ပညာရေးသည် ထင်သလောက် ခရီးမရောက်နိုင်ပါ။ နောက်ပြီး မြန်မာလူမျိုးတို့သည် ပညာအရည်အချင်းကို လေးစားတတ်သော၊ ဂုဏ်ယူတတ်သော လူမျိုးဖြစ်၏။ လောကုတ္တရာဘွဲ့ကလည်း ထူးထူးချွန်ချွန် ဖြစ်ဖြစ်မြောက်မြောက်မရှိ၊ လောကီဘွဲ့လည်း မရှိရှာကြသော ရဟန်းတော်တို့အတွက် ဘာသာရေး၊ သာသနာရေးကိစ္စများကို ဆောင်ရွက်ကြရာ၌ အခက်အခဲများစွာ ရှိနေပါသည်။

## နားလည်သဘောပေါက်ကြပါ

အထက်ပါ အခြေအနေအရပ်ရပ်တို့ကို ခြုံငုံသုံးသပ်၍ ရဟန်းသာမဏေများ ဘာသန္တရပညာရပ်များ သင်ကြားမှုကို ပြည်သူများနားလည်သဘောပေါက်စေချင်ပါသည်။ သင်ကြားခွင့်ရအောင်လည်း ဝိုင်းဝန်းကူညီ ပံ့ပိုးကြစေလိုပါသည်။ ခေတ်သည် အမြဲပြောင်းလဲနေ၏။

မြန်မာတို့ပိုင်သော မြေပေါ်၌ မြန်မာ့ယဉ်ကျေးမှုအမွေအနှစ်များ၊ ကျောင်းကန်ပုထိုးစေတီများ၊ ဘာသာ သာသနာနှင့်စပ်သော အမွေအနှစ်များ ဆက်လက်တည်တံ့ ခိုင်မြဲနိုင်စေရန် ရဟန်းတော်များ အင်္ဂလိပ်စာသင်မှ ဖြစ်တော့မည်။ ပြည်တွင်းအတွက်ရော၊ ပြည်ပအတွက်ပါ အင်္ဂလိပ်ဘာသာစကားသည် အသုံးတွင်ကျယ်နေ၍ တစ်ချိန်မဟုတ်တစ်ချိန် အသုံးဝင်နိုင်သည်။ အထူးသဖြင့် ကျေးလက်တောရွာများအတွက် ပြန်လည်သင်ကြားပို့ချရန် ဖြစ်၏။ အမျိုးဘာသာ သာသနာတော်အတွက် ရဟန်းတော်တို့၏ ပရဟိတလုပ်ငန်းသည် အထူးအားထားရမည်ဖြစ်၏။ ထို့ကြောင့် အင်္ဂလိပ်စာသင်ကြားခွင့် ရရှိကြသော ရဟန်းသာမဏေများအတွက် အပြစ်ဖြစ်ဖို့ထက် အကျိုးဖြစ်ထွန်းဖို့က ပို၍ များနိုင်ပါသည်။

နိဂုံးချုပ်အနေအားဖြင့် လောကီ လောကုတ္တရာ ပညာရပ်များကို ရဟန်း သာမဏေများထံမှ (သီလရှင်များလည်း ပါဝင်၏) သင်ကြားခွင့် ရရှိကြမည်ဖြစ်သော ကလေးသူငယ်များသည် ရဟန်းသံဃာတော်များ အပေါ်၌ ဆရာသမားဆိုသည့် စိတ်ထား၊ ဘုရားသားတော် သံဃာတော်ဆိုသည့် စိတ်ထားများဖြင့် လေးစားကြမည်ဖြစ်၏။ မြတ်နိုးရိုသေကြမည်ဖြစ်၏။ အခြေခံဘာသာရေး ကျမ်းစာများကို သင်ကြားခွင့် ရခြင်းဖြင့် ဗုဒ္ဓသာသနာတော်ကိုလည်း ယုံကြည်စိတ်များ တဖွားဖွား တိုးပွားလာကြမည်ဖြစ်၏။ အဖိုးမဖြတ်နိုင်သော အကျိုးရလဒ်အနေအားဖြင့် အမျိုးဘာသာ သာသနာတော်အတွက် သွေးစည်းညီညွတ်မှုများ၊ အချင်းချင်း ချစ်ခင်မြတ်နိုးမှုများ မလွဲမသွေ ရနိုင်သည်။ ထို့ကြောင့် ဘုန်းတော်ကြီးကျောင်း ပညာသင်ကြားရေးစနစ်ကို လှိုက်လှဲစွာ ကြိုဆိုပါ၏။ ဘုန်းတော်ကြီးကျောင်း ပညာသင်ကြားရေးစနစ်မှသည် ဘုန်းတော်ကြီးသင် ပညာရေးစနစ်ဆီသို့ ကူးပြောင်းပေးနိုင်ကြလိမ့်မည်ဟုလည်း မျှော်လင့်ပါသတည်း။

(နိုင်ငံရပ်ခြား ဗုဒ္ဓသာသနာပြု ရဟန်းတော်တစ်ပါး၏ စေတနာ ရှေ့ထား၍ ရေးသားသော ဆောင်းပါးဖြစ်၍ ယင်းဆောင်းပါးကို ဆောင်းပါးရှင်၏ အာဘော်အတိုင်း ဖော်ပြပါသည်)



# အမြင်မှာ နီးသော်လည်း

ဤလောကကြီးတွင် နေထိုင်ကြသော လူသားတိုင်း၌ အနည်းဆုံး ခံစားချက်တစ်မျိုးစီတော့ ရှိနေတတ်ကြ၏။ မိသားစုနှင့်နွယ်သော ခံစားချက်၊ သူငယ်ချင်းနှင့်နွယ်သော ခံစားချက်၊ ဘဝမပြည့်စုံမှုနှင့်နွယ်သော ခံစားချက် စသည်ဖြင့် ခံစားမှုတွေက မျိုးစုံလှ၏။ အမှန်ဆိုရသော် ရင်တွင်း ခံစားချက်ဟူသည် ဒုက္ခဝေဒနာတစ်မျိုးပင် ဖြစ်၏။ ဆင်းရဲ၏၊ ပင်ပန်း၏၊ နွမ်းနယ်၏၊ ပင်ပန်းနွမ်းနယ်နေရသည့်အထဲ လိုချင်တာ မရလို့၊ ဖြစ်ချင်တာတွေ မဖြစ်ရလို့ ဖြစ်ပေါ်လာသော ဒုက္ခက ထပ်ပြီး ပေါင်းထည့်လိုက်ပြန်တော့ မလှူသာ မလွန့်သာ ဖြစ်ရပြန်သည်။ ပုထုဇဉ် ဘဝနှင့် မရနိုင်မှန်းသိသော စစ်မှန်သော ချမ်းသာသုခကို ဤအခါမျိုးမှာ မျှော်လင့်မိပြန်၏။ မိမိမှာလည်း အများနည်းတူ ခံစားချက်တစ်ခုတော့ ရှိသည်။ ဖြစ်နိုင်ဖို့ မလွယ်ကူမှန်းလည်း သိသည်။ သို့သော် မျှော်လင့်ချက်များ ပြည့်များ ပြည့်လေမလားဟု ဤစာကို ရေးသားတင်ပြရခြင်း

ဖြစ်သည်။

စာရေးသူသည် နိုင်ငံခြား၌ သာသနာ့တာဝန်ကို ထမ်းဆောင်နေသော မြန်မာရဟန်းတော်တစ်ပါးဖြစ်သည်။ မြေခြား၊ ရေခြား၌ နေထိုင်ရသဖြင့် အစစအရာရာ သတိကြီးစွာထားရသည်။ မိဝေး၊ ဘဝေး၊ ဆရာသမားများနှင့်ပါ ဝေးဝေးနေရသည့်အတွက် ကိုယ့်ဘဝကို သတိတရား၊ ဆင်ခြင်တုံ၊ မြော်မြင်တုံတရားတို့ဖြင့် ထိန်းကျောင်းနေရသည်။ အမှန်ဆိုရလျှင် ကိုယ့်ပြည် ကိုယ့်ရွာနှင့် ဝေးဝေးနေချင်လှသည်တော့ မဟုတ်ပေ။ ရေခြား၊ မြေခြား၌ နေထိုင်စဉ် အစစအရာရာ သတိတရားထားမိရာမှ သူတို့ဘဝ၊ သူတို့အခြေအနေ၊ ကိုယ့်ဘဝ၊ ကိုယ့်အခြေအနေတို့ကို သိခဲ့ရပြန်သည်။ သူတို့ဘဝ၊ သူတို့အခြေအနေတို့ကို ပြောနေရလျှင် ကုန်နိုင်ဖွယ်မရှိ၍ မိမိ နိုင်ငံခြား နေစဉ်အတွင်း တွေ့ကြုံခံစားရသမျှကိုသာ ပြောပြလိုပါသည်။ ဤသို့ဆိုလျှင် နိုင်ငံခြားသို့ စတင်ထွက်ခွာသည့်နေ့မှ စရပေလိမ့်မည်။

## ဘဝပေး သင်ခန်းစာ

ဤနေ့သည် စာရေးသူအတွက် နိုင်ငံခြားအတွေ့အကြုံများ ရရှိဖို့ အခွင့်အလမ်းပွင့်ခဲ့သောနေ့ဟုဆိုလျှင် မှားမည်မထင်။ မဟာစည်သာသနာ့ရိပ်သာကြီးမှ ဩဝါဒါစရိယဆရာတော် (ယခုပဏ္ဍိတာရာမဆရာတော်ဟု အမည်တွင်သည်)၏ တာဝန်ပေးချက်အရ ၁၉၈၆–ခု၊ ဇွန်လ(၂၂)ရက်နေ့တွင် မလေးရှားနိုင်ငံ၊ ပီနန်မြို့ Malaysiar Buddhist Meditation Center ကမ္မဋ္ဌာန်းရိပ်သာ၌ ဝိပဿနာတရားများ ဟောကြားပြသရန် အမိမြန်မာပြည်ကြီးမှ ထွက်ခွာလာခဲ့သည်။ တကယ်တမ်း ထွက်ခွင့်ကြုံပြန်တော့ ကိုယ့်ပြည်၊ ကိုယ့်ရွာမှ

ထွက်ခွာသွားရမည်ကို ဝန်လေးနေမိပြန်သည်။ နိုင်ငံခြား တိုင်းပြည်တစ်ခုသို့ ပထမဦးဆုံးအကြိမ် ထွက်ခွာရခြင်းဖြစ်၍ ရင်ထဲမှာလည်း ပူပန်နေမိပြန်သည်။ သပိတ်၊ ယပ်တောင်၊ မိမိအသုံးအဆောင်ပစ္စည်းအချို့နှင့် တရားစာအုပ်အနည်းငယ်မှအပ မိမိမှာ ဘာဆိုဘာမျှ မပါခဲ့။ ကိုယ်တိုင်ကလည်း အင်္ဂလိပ်လို မပြောတတ်၊ မဆိုတတ်။ စကားပြန်ကလည်း ပါမလာဆိုတော့ ပူပန်စိတ်တွေ၊ စိုးရိမ်စိတ်တွေ၊ အားငယ်စိတ်တွေကလည်း တလိမ့်လိမ့်တက်နေသော ဒီလှိုင်းလုံးကြီးတွေပမာ။ လေယာဉ်ကြီးအငြိမ့်သား စီးနေရ၍ ပျော်ရွှင်နေရမည့်အစား၊ ပျော်ရွှင်ဖို့ နေနေသာသာ ပီနန်ကိုသာ မြန်မြန်ရောက်ပါစေဟု စိတ်ထဲ၌ တစ်ယောက်တည်း ဆုတောင်းနေမိတော့သည်။ ဤနေ့၌ မိမိဘဝ၏ ဟာကွက်တစ်ကွက်ကို သတိပြုမိခဲ့၏။ နိုင်ငံခြားခရီး၌ ပထမဆုံးသော ဘဝသင်ခန်းစာ ရသောနေ့။

မှန်ပေသည်၊ နိုင်ငံခြားမြေပေါ်၌ ခေတ္တဖြစ်စေ (သို့မဟုတ်) ခပ်ကြာကြာပင်ဖြစ်စေ နေရတော့မည်ဆိုလျှင် မိမိ သွားရောက်နေထိုင်မည့် နိုင်ငံစကား(သို့မဟုတ်) နိုင်ငံတကာ အသုံးပြုသော အင်္ဂလိပ်ဘာသာစကားကို ထမင်းစား၊ ရေသောက်လောက်တော့ အနည်းဆုံးတတ်ထားသင့်ပေသည်။ အထူးသဖြင့် အင်္ဂလိပ်ဘာသာစကား မတတ်ခဲ့လျှင် ကိုယ့်ပြည်၊ ကိုယ့်ရွာ၌ ရဲရင့်သူပင် ဖြစ်ပါစေ၊ နိုင်ငံခြား၌ အလိုအလျောက် အားငယ်စိတ်တွေ ဖြစ်နေတတ်သည်။ အင်္ဂလိပ်ဘာသာစကား မတတ်က အလိမ်၊ အညာတွေနှင့်လည်း တွေ့နိုင်သည်။ ရောက်ရာနိုင်ငံများ၌ ဥပဒေများ ရှိသော်လည်း ဖြစ်ပျက်သမျှ အကြောင်းအရာတို့ကို ဘာသာစကားမတတ်က အဘယ်သို့ ရှင်းပြနိုင်ပါမည်နည်း။

လေယာဉ်ပေါ်မှာ ခရီးသည်များ စကားစတင်ပြောကြပြီ။ စာရေးသူမှာ ပြောနိုင်အား မရှိ၊ ပြောစရာစကားလည်း မရှိ၊ မသက်မသာ

ဖြစ်နေသော စိတ်အစဉ်တို့ဖြင့် တောင်တွေး၊ မြောက်တွေး တွေးနေမိ၏။ ရုတ်တရက် သူငယ်ချင်းတစ်ပါး၏ နိုင်ငံခြားသာသနာပြု အတွေ့အကြုံမှ ရသော စကားလေးတစ်ခွန်းကို အမှတ်ရမိတော့သည်။ ''တပည့်တော် ဘန်ကောက်ကို ပထမဦးဆုံးအကြိမ် သွားစဉ်က ထိုင်းလေယာဉ်ပေါ်မှာ လေယာဉ်မယ်က ဘာဘုဉ်းပေးမလဲ–လို့ အင်္ဂလိပ်လို မေးတယ်။ တပည့် တော်ကလည်း ဘာမျှ အင်္ဂလိပ်လို တတ်ထားတာ မရှိဘူး။ 'ဝေါတား' တစ်လုံးပဲ ကောင်းကောင်း မှတ်မိနေတယ် ဆိုပါတော့။ ဒါနဲ့ပဲ 'ဝေါတား– ဝေါတား'လို့ ဖြေလိုက်မိလို့ ရေလေးတစ်ခွက်ပဲ လေယာဉ်ပေါ်မှာ သောက် ခဲ့ရတယ်''ဟု ရယ်ရယ်ရွှန်းရွှန်း ပြောခဲ့သော သူငယ်ချင်း၏ မျက်နှာကို မြင်ယောင်မိတော့သည်။ စာရေးသူမှာတော့ 'ဝေါတား'ကိုပင် ပီပီသသ မပြောတတ်၍ ရေတစ်ခွက်ကိုပင် သောက်ရဖို့ အခွင့်အလမ်း မမြင်။

## နောင်တရသော နေ့

မလေးရှားနိုင်ငံ၊ ပီနန်မြို့ MBMC ကမ္ဘဋ္ဌာန်းရိပ်သာ၌ စတင် နေထိုင်သည့်နေ့မှစ၍ နောင်တ အကြီးအကျယ် ရခဲ့မိသည်၊ အဘယ် ကြောင့်ဆိုသော် အင်္ဂလိပ်ဘာသာစကားကို စနစ်တကျမသင်ခဲ့မိသော ကြောင့်ဖြစ်၏။ စာရေးသူသည် မဟာစည်သာသနာ့ရိပ်သာကြီး၌ လေးနှစ် နီးပါး နေထိုင်ခဲ့စဉ်က သြဝါဒါစရိယဆရာတော်ဘုရားသည် ပြည်တွင်း ပြည်ပ ဓမ္မဒူတ စီမံကိန်းဖြင့် ဓမ္မာစရိယအောင် သံဃာငယ်(၁၅)ပါးခန့်ကို နေ့စဉ် အင်္ဂလိပ်စာများကို သင်ကြားပေးခဲ့၏။ ဘာသန္တရစာပေ သင်ကြား ရေး၌ စိတ်မဝင်စားခဲ့သော စာရေးသူသည် မလွှဲမကင်း၍သာ သင်တန်း များကို တက်ခဲ့ရ၏။ အင်္ဂလိပ်စာကို ရေးခြင်း၊ ဖတ်ခြင်း၊ လေ့လာခြင်း ဆိုသည်မှာ အလျှင်းမရှိခဲ့၊ အဲဒီတုန်းက ရေသာခိုခဲ့သမျှ၊ မလေးရှားကျမှ

ဒုက္ခကောင်းကောင်း တွေ့တော့၏။

စာရေးသူမှာ စားစရာလည်း ရှိ၏၊ နေစရာလည်း ရှိ၏။ သို့သော် ပြောစရာစကားမရှိ၊ တရုတ်လိုလည်း မရ၊ အင်္ဂလိပ်လိုလည်း မရ။ ဒီတော့မှ အခက်ကြုံရတော့၏။ စကားပြန်ပေးသော ဒကာမကြီး ဒေါက်တာဒေါ်ခင်ဦးလွင်သည် တစ်နေ့မှ တစ်ခေါက် ကျောင်းသို့လာနိုင်၏။ သူ့မှာလည်း မိသားစုတာဝန်ဝတ္တရားများ ရှိနေ၏။ ချက်ရ၊ ပြုတ်ရသေး၏။ ဒီကြားထဲ ကျောင်းတာဝန်ဝတ္တရားက ပိုလာပြန်သည်။ မနက် (၇)နာရီခွဲမှ နေ့(၁၁)နာရီအထိ တရားဟော၊ တရားပြအတွက် နေ့စဉ်စကားပြန်ပေးရ၏။ အမှန်ဆိုရလျှင် တရားဟော၊ တရားပြ တာဝန်များသည် ရဟန်းတော်များ၏ တာဝန်သာဖြစ်၏။ ရဟန်းတော်များ ဘာသန္တရ အင်္ဂလိပ်စာ မကျွမ်းကျင်၍ သာသနာစိတ်ရှိကြသော ဒကာ၊ ဒကာမများက ရောက်ရာနိုင်ငံများ၌ ရဟန်းတော်များကို အကူအညီပေးနေကြခြင်းဖြစ်၏။ သာသနာရေးနှင့်စပ်၍ လက်တွဲအလုပ်မလုပ်ဖူးက သူတို့၏စေတနာ၊ သူတို့၏မေတ္တာကို စာရှုသူတို့ နားလည်ချင်မှ နားလည်နိုင်မည်။ စေတနာသက်သက်ဖြင့် နေ့စဉ်ရက်ဆက် ကူညီပေးနိုင်ဖို့ဆိုတာ တကယ်တမ်းကျတော့ လွယ်ကူလှသည့်အရာ မဟုတ်ပေ။

စာရေးသူသည် ဤကဲ့သို့ ခက်ခက်ခဲခဲ စကားသုံးဆင့် (မြန်မာ+အင်္ဂလိပ်+တရုတ်)ဖြင့် တရားဟော တရားပြနေရသည့်အချိန်တိုင်း ကိုယ့်ကိုယ်ကို အားမလိုအားမရ ဖြစ်ခဲ့သည်။ နောင်တလည်း ရနေမိသည်။ နေကောင်းရဲ့လားလောက် တတ်ရုံနဲ့တော့ နိုင်ငံခြား၌ ဘာမှ အလုပ်မဖြစ်နိုင်။ မြတ်ဗုဒ္ဓ၏ တရားတော်တို့သည် လေးနက်သည်၊ သိမ်မွေ့သည်။ နက်ရှိုင်းသည်။ အင်္ဂလိပ့်လို အဓိပ္ပါယ်ထိထိမိမိဖြင့် တရားဟော၊ တရားပြဖို့ ဆိုသည်မှာ မလွယ်ကူလှကြောင်း ကောင်းကောင်းကြီး သဘောပေါက်ခဲ့သည်။ အစပိုင်း၌ အင်္ဂလိပ်စာကို ကြိုးစားသင်သော်လည်း ထင်

သလောက် မတိုးတက်ခဲ့၍ စိတ်အပျက်ကြီး ပျက်ခဲ့သည်။ သို့သော် မလေးရှားယောဂီများနှင့် ဒကာကြီး ဒေါက်တာ ဦးကြည်အောင်+ ဒကာမကြီး ဒေါက်တာ ဒေါ်ခင်ဦးလွင်တို့၏ အားပေးစကားသည် စာရေးသူအတွက် အားဆေးသဖွယ် ဖြစ်ခဲ့ပြန်သည်။ တရားကို လိုချင်ရှာလွန်း၍ စကားသုံးဆင့်ဖြင့် အဓိပ္ပါယ်ဖော်နေရသော မလေးရှားယောဂီများကို သနားကြင်နာသည့် စိတ်ကလည်း အင်္ဂလိပ်စာ ဆက်လက် သင်ကြားရေးအတွက် အင်အားသဖွယ် ဖြစ်ရပြန်သည်။

## နှိုင်းယှဉ်ခြင်းမဟုတ်ပါ

မလေးရှားယောဂီများသည် မြန်မာရဟန်းတော်များကို သိပ်အားကိုးသည်၊ သိပ်လေးစားကြသည်။ သို့သော် မြန်မာရဟန်းတော်တို့၏ အားနည်းချက် တစ်ခုအတွက် သူတို့လည်း ရင်မအေးဖြစ်ရသည်။ ထိုအရာကား တခြားမဟုတ်ပါ။ နိုင်ငံတကာ၌ အသုံးဝင်သော၊ နိုင်ငံခြားသာသနာပြုလုပ်ငန်း၌ အသုံးတွင်သော အင်္ဂလိပ်ဘာသာစကား၌ မကျွမ်းကျင် မတတ်မြောက်ကြခြင်းပင်ဖြစ်သည်။ နှိုင်းယှဉ်ခြင်းမျိုးတော့ မဟုတ်ပါ။ သို့သော် မြန်မာတို့ သိဖို့တော့ လိုသည်။ သီရိလင်္ကာရဟန်းတော်တို့သည် အများအားဖြင့် အင်္ဂလိပ်စာ ကောင်းကြသည်။ သူတို့နိုင်ငံမှာ နေစဉ်အတွင်း အင်္ဂလိပ်လို သင်ယူဖို့ အခွင့်အလမ်းသာကြသည်။ သံဃာ့တက္ကသိုလ်ကြီးများ၌ အင်္ဂလိပ်လို သင်လိုက သင်နိုင်သည်။ သီရိလင်္ကာလို သင်မည်ဆိုပါကလည်း သင်နိုင်သည်။ နိုင်ငံခြား သာသနာပြုလုပ်ငန်းများ၌ သံဃာလိုအပ်လာခဲ့သော် အင်္ဂလိပ်စာ တတ်မြောက်ထားပြီး ရဟန်းတော်များကို ပြည်တွင်းမှာ လွယ်ကူစွာ ရနိုင်သည်။ ထို့ကြောင့် ထေရဝါဒ နိုင်ငံခြားသာသနာပြုလုပ်ငန်း၌ နိုင်ငံငယ်သော်လည်း သီရိလင်္ကာရဟန်း

တော်များ အလုပ်တွင်ကျယ်ခဲ့သည်။ အချို့နိုင်ငံများ၌ သီရိလင်္ကာကျောင်း အရေးအတွက်သည် မြန်မာကျောင်းအရေးအတွက်ထက်ပင် များနေ၏။

မြန်မာရဟန်းတော်များသည် ပါဠိစာပေတတ်မြောက်မှု၌ အလေးသာ၏၊ သို့သော် ပါဠိလို ပြောကြစို့ ဆိုကြစို့ဆိုလျှင် အလေ့အကျင့် မရှိ၍ နှုတ်ဆွံ့နေကြရတော့သည်။ ဝိပဿနာတရား ဟောကြားရေး စသည်တို့၌ လူအများက လေးစားကြသည်။ သို့သော် အင်္ဂလိပ်စာ မတတ်ကျွမ်း၍ တကယ့်အရေး၌ နောက်တန်းမှာသာ နေခဲ့ကြရသည်။ မြန်မာရဟန်းတော်များ အင်္ဂလိပ်လို ကောင်းကောင်းပြောနိုင်၊ ဟောနိုင်၊ ရေးသားနိုင်ကြမည်ဆိုလျှင် ထေရဝါဒဗုဒ္ဓသာသနာတော်အတွက် နိုင်ငံခြား တိုင်းပြည်များ၌ တိုးတက်မှုအလားအလာ အထူးကောင်းမွန်လာမည်မှာ ယုံမှားစရာ မရှိပေ။

## သူတို့အပြော

စာရေးသူသည် နိုင်ငံခြား၌ နေထိုင်စဉ်အတွင်း နိုင်ငံငယ်များသို့ ကြွရောက်ခွင့် ကြုံခဲ့သည်၊ ထိုင်း၊ စင်္ကာပူ၊ ဩစတြေးလျ၊ နီပေါ၊ အိန္ဒိယ၊ သီရိလင်္ကာ၊ အင်္ဂလန်၊ အမေရိကန်နှင့် ကနေဒါနိုင်ငံများ၌ နေထိုင် သီတင်းသုံးတော်မူကြသော မြန်မာရဟန်းတော်များနှင့် တွေ့ခွင့် ကြုံခွင့် ဆွေးနွေးခွင့်ရခဲ့ပါသည်။ ဆရာတော် အနည်းငယ်မှအပ မြန်မာရဟန်း တော် အများစုမှာ အင်္ဂလိပ်စာ အခက်အခဲနှင့် တွေ့ကြုံနေရဆဲပင်ဖြစ် ကြောင်း သိရှိခဲ့ရသည်၊ အသက်အရွယ် ရင့်ပြီဖြစ်သော သံဃာတော် များကမူ "အရှင်ဘုရားတို့က အသက်ငယ်ပါသေးတယ်၊ အင်္ဂလိပ်စာကို ကြိုးစားသင်က တတ်မြောက်နိုင်ပါတယ်"ဟု အားပေးစကား ဆိုခဲ့ကြ သည်။

စာရေးသူလည်း ရှိသမျှဇွဲလုံ့လဖြင့် အင်္ဂလိပ်စာကို အချိန်ရတိုင်း ကြိုးစား၍ သင်ကြားနေခဲ့ရာ ငါးနှစ်နီးနီး ရှိခဲ့ပြီ။ သို့သော် အင်္ဂလိပ်လိုတရားဟော၊ တရားပြဖို့အတွက် ခက်ခဲနေဆဲပင် ဖြစ်၏။ ထို့ကြောင့် အင်္ဂလိပ်စာ သင်ကြားခွင့် ပိုမိုရရှိနိုင်ရန် အမေရိကန်နိုင်ငံသို့ ပြောင်းရွှေ့နေထိုင်ခဲ့သည်။ ခေတ်မီစနစ်ဖြင့် သင်ကြားပေးကြသော ကောလိပ်ကျောင်းများသို့ ကြိုးစား၍ တက်ရောက်သင်ကြားခဲ့သည်။ သို့သော် အခြေခံက အားနည်းခဲ့၍ ထင်သလောက် ခရီးမရောက်ပြန်။ တစ်ခါတစ်ခါ ကိုယ့်ကိုယ်ကို 'ဒီလောက်ပဲ ညံ့ရကောင်းလား' ဟု အားမလိုအားမရ ဖြစ်မိပြန်သည်။ တစ်ဖက်မှလည်း မဟာယာနရဟန်းတော်များ အင်္ဂလိပ်စာ သင်ကြားခွင့် အခွင့်အလမ်း မိမိတို့ထက် သာလွန်ကြောင်း သိရပြန်၍ ကိုယ့်ကိုယ်ကို အားပေးရပြန်သည်။ စာကြည့်တိုက်ကြီးများ၌ ဗုဒ္ဓဘာသာနှင့် ပတ်သက်လျှင် မဟာယာန စာအုပ်စာပေများသာ တွင်ကျယ်နေ၍ ထေရဝါဒသာသနာတော်အတွက် တစ်ယောက်တည်း အားမလို အားမရ ခံစားရပြန်သည်။ ထေရဝါဒတရားတော်များ နိုင်ငံတကာ ပျံ့နှံ့ရေးအတွက် အဘယ်သို့ ကြိုးစားကြမည်နည်း။

## ပြည်တွင်းမှာက ပိုကောင်းသည်

အမြန်ဆုံးနှင့် အထိရောက်ဆုံးဟု ထင်ရသောနည်းမှာ အင်္ဂလိပ်စာ သင်ကြားလိုစိတ် ရှိကြသော မြန်မာရဟန်းတော်များ အခြားသော စာမေးပွဲများကိုလည်း ဆက်လက်မဖြေကြတော့ဟု ဆိုလျှင် ဓမ္မာစရိယ ပြီးပြီးချင်း ပြည်တွင်းမှစ၍ အင်္ဂလိပ်စာကို ကြိုးကြိုးစားစား သင်ကြားကြဖို့ပင် ဖြစ်၏။ ပြည်တွင်းမှာ အင်္ဂလိပ်စာ သင်ကြားခွင့် အခွင့်အလမ်းများ ရကြမည်ဆိုလျှင် ပြည်ပမှာ သင်ကြားရသည်ထက်

ပို၍အဆင်ပြေနိုင်သည်။ ပြည်ပမှာ စားရေး မခက်သော်လည်း နေရေး ခက်သည်၊ အချို့နိုင်ငံများ၌ စားရေးပါ ခက်သည်။ ပြည်ပမှာ နေခွင့်ကြုံလျှင်တော့ ကောင်းပါသည်။ သို့သော် မရရှိနိုင်သော အခွင့်အလမ်းကို မျှော်လင့်နေခြင်းထက် ရရှိသော အခွင့်အလမ်းများ လက်လွတ်မသွားဖို့က ပို၍ အရေးကြီးပါသည်။ အခြေခံ ကောင်းကောင်း ရထားပါလျှင် အင်္ဂလိပ်စာကို စနစ်တကျ သင်ခွင့်ရသောနေ့မှာ ထိုအခြေခံကို သင်ယူထားသော ရဟန်းတော်တို့အတွက် စာတတ်မြန်မည်မှာ မြေကြီးလက်ခတ်မလွဲနိုင်ပေ။

စာရေးသူသည် အမေရိကန်နိုင်ငံ၌ လေးနှစ်တင်းတင်းပြည့်ခဲ့ပြီဖြစ်သော်လည်း မိမိရည်မှန်းထားသော ပန်းတိုင်သို့ကား မရောက်သေးပေ။ ပန်းတိုင်ရောက်ရှိရေးအတွက် ပြေးဆဲ၊ လျှောက်ဆဲ၊ ရုန်းကန်ဆဲပင် ရှိနေသည်။ မိမိနားလည်ထားသော ပန်းတိုင်ဟူသည်မှာ အင်္ဂလိပ်စာကို သာမန်ကာလျှံကာ ဟောတတ်၊ ပြောတတ်၊ ရေးတတ်မှုမျိုးကို မဆိုလိုပေ။ ဖြစ်နိုင်လျှင် ဗုဒ္ဓတရားတော်များကို တိတိကျကျ၊ ထိထိမိမိ၊ ဟောတတ်၊ ပြောတတ်၊ ရေးတတ်၊ ဆိုတတ်သည့် အဖြစ်မျိုးသို့ အရောက်လှမ်းရန် ဖြစ်သည်။ ယခု နိုင်ငံခြားသို့ ရောက်ရှိနေသည်မှာ စုစုပေါင်း ကိုးနှစ်တင်းတင်းပြည့်ခဲ့ပြီ။ ဆိုလိုသည်မှာ ဘာသန္တရသင်ကြားရေးသည် အပြောလွယ်သလောက် လက်တွေ့ကျတော့ မလွယ်ကူလှပေ။ အမြင်မှာ နီးသလောက်၊ ပန်းတိုင်ရောက်ဖို့ ခက်ခဲကြောင်း လက်တွေ့သာဓကဖြင့် တင်ပြခြင်း ဖြစ်ပါသည်။ စာရေးသူ လေ့လာ သိရှိရသမျှ နိုင်ငံခြား၌ သီတင်းသုံးနေကြသော ကြီးကြီးငယ်ငယ် မြန်မာရဟန်းတော်များ အားလုံးသည် အင်္ဂလိပ်စာကို အချိန်ရှိတိုင်း သူတို့အား၊ သူတို့မာန်၊ သူတို့ဉာဏ်ရှိသလောက် ကြိုးစား၍ သင်ကြားနေကြပါသည်။ အချို့ရဟန်းများဆိုလျှင် တတ်လည်းတတ်မြောက်နေကြပါပြီ။ မြန်မာရဟန်းတော်တို့အတွက် ဂုဏ်ယူစရာပင် ဖြစ်၏။

အချုပ်အားဖြင့်ဆိုရလျှင် မရမ်းကုန်းမြို့နယ်၊ ဓမ္မပါလကုန်းတော်တွင် တည်ဆောက်နေဆဲဖြစ်သော အပြည်ပြည်ဆိုင်ရာ ထေရဝါဒ ဗုဒ္ဓသာသနာပြု တက္ကသိုလ်ကြီး၌ မြန်မာရဟန်းတော်များ ဆရာများအဖြစ် ပါဝင်နိုင်ဖို့ လိုပါသည်။ မဝေးလှသော အနာဂတ်ကာလ၌ မြန်မာ၊ ပါဠိ၊ အင်္ဂလိပ်စာတတ် မြန်မာရဟန်းတော်များသည် အပြည်ပြည်ဆိုင်ရာ ရဟန်းတော်များအား ထေရဝါဒဗုဒ္ဓစာပေများကို စနစ်တကျ ကျွမ်းကျွမ်းကျင်ကျင် သင်ကြားပို့ချပေးနိုင်လိမ့်မည်ဟုလည်း မျှော်လင့်ပါသတည်း။



# နှစ်ဆယ်ရာစု ဗုဒ္ဓသာသနာ

ရာစုနှစ် တစ်စု ကုန်လုနီးပြန်ပြီ၊ ရာစုနှစ်တစ်စုမှ တစ်စုသို့ ကူးပြောင်းလေတိုင်း၊ ဗုဒ္ဓသာသနာတော်၏ သမိုင်းဝင် မှတ်တမ်းမှတ်ရာများသည် သာသနာတော်၌ ထင်ကျန်ရစ်ခဲ့စမြဲဖြစ်၏။ ဤနှစ်ဆယ်ရာစု ဗုဒ္ဓသာသနာတော်ကြီးသည်လည်း နှစ်တစ်ရာကို ဖြတ်သန်းခဲ့ရ၍ ပင်ပန်းခြင်း၊ နွမ်းနယ်ခြင်း၊ ရွှင်လန်းခြင်း၊ ဝမ်းမြောက်ခြင်း စသည်တို့ဖြင့် သာသနာတော်၏အသက်ကို ကြိုးစား၍ ဆက်ခဲ့ရင်း သမိုင်းဝင်မှတ်တမ်းများစွာကို ထားရစ်ခဲ့၏။

အကောင်း၊ အဆိုး၊ အတက်၊ အကျ၊ အနိမ့်၊ အမြင့် ဆိုသည့် လောကဓံတရားတို့ကြောင့် မြတ်ဗုဒ္ဓ၏ သာသနာတော်ကြီးသည် အတိုး၊ အဆုတ်၊ အလျော့၊ အတင်းများ ရှိခဲ့သည်။ ထို့ကြောင့် နောင်လာနောက်သား ရဟန်းရှင်လူများအတွက် ဖြစ်ပျက်ခဲ့သမျှ သမိုင်းစဉ်အားလုံးကို ရေးမှတ်ရန် မိမိတို့တစ်တွေမှာ လုံးဝတာဝန်ရှိလေ၏။ သာသနာတော်ကြီး

ဆက်လက်၍ တိုးတက်၊ စည်ပင်၊ ပြန့်ပွားရေးမှာလည်း မိမိတို့တစ်တွေ၏ တာဝန်သာ ဖြစ်လေ၏။ ဤသို့ဆိုလျှင် မြတ်ဗုဒ္ဓ၏ သာသနာတော်ကြီး အရှည်တည်တံ့၊ ခိုင်ခံ့စေရန် မိမိတို့တစ်တွေ မည်သို့ ပြုကြမည်နည်း။

အဖြေကား ရှင်း၏။ မြတ်ဗုဒ္ဓ၏ သာသနာတော်ကြီး ဖွံ့ဖွံ့ဖြိုးဖြိုး နှင့် အသက်ဆက်ရေးသည် သက်ရှိဖြစ်သော သာသနာတော်ကို ကြည်ညို ကြသော ရဟန်း၊ ရှင်၊ လူများ တရားကျင့်သုံးမှု၊ မကျင့်သုံးမှုအပေါ်မှာ မူတည်နေ၏။ တရားတော်အတိုင်း ကျင့်ကြံသူများလျှင် သာသနာတိုး တက်မည်။ ကျင့်ကြံသူနည်းလျှင် သာသနာတော် ဆုတ်ယုတ်မည်။ အတက်၊ အကျ၊ အနိမ့်၊ အမြင့်၊ အတိုး၊ အဆုတ် ဆိုသည်တို့မှာ လောကနိယာမ တရားသဘောများပင် ဖြစ်၍ ဗုဒ္ဓသာသနာတော်ကြီး၏ တိုးတက်မှု၊ ဆုတ်ယုတ်မှု အပိုင်းကဏ္ဍတို့သည် ထိုလောကနိယာမ တရား သဘောတို့နှင့် ဆက်နွယ်နေမည်သာ ဖြစ်၏။ ထိုသို့ဖြစ်လျှင် ဝမ်းသာ စရာ၊ ဝမ်းနည်းစရာတို့ဖြင့် ရောထွေးနေသော 'ဤနှစ်ဆယ်ရာစု ဗုဒ္ဓ သာသနာတော်သမိုင်း'ကို အဘယ်နည်းဖြင့် မှတ်တမ်းတင်ထားကြမည် နည်း။

## အံ့ဖွယ်ရစ်ဖြာ သာသနာ

ဤနှစ်ဆယ်ရာစုများအတွင်း မြတ်ဗုဒ္ဓ၏ အံ့ဖွယ်ရစ်ဖြာ သာသနာတော်ကြီးနှင့် စပ်လျဉ်း၍ သမိုင်းဝင်ဖြစ်ရပ်များ အံ့မခန်းရှိခဲ့ သည်။ ထိုသမိုင်းဝင်ဖြစ်ရပ်များကို စံထားလျက် နောင်လာနောက်သား များ သာသနာတော်ကြီးကို စောင့်ရှောက်ကြမည်ဆိုပါက မြတ်ဗုဒ္ဓ၏ အံ့ဖွယ်ရစ်ဖြာ သာသနာတော်ကြီးသည် နေလပမာ ထွန်းလင်းတောက်ပ နေမည်သာဖြစ်၏။ ဤနေရာ၌ သမိုင်းဝင်ဖြစ်ရပ်အချို့ကို ထုတ်ပြရသော်

၁၃၁၆–ခုနှစ်၊ (၁၉၅၄–ခုနှစ်)မှစ၍ ကမ္ဘာအေးကုန်းမြေ၌ သုံးနှစ်တိုင်တိုင် ကျင်းပပြုလုပ်ခဲ့သော ဆဋ္ဌသင်္ဂါယနာတင်ပွဲကြီးသည် ထေရဝါဒသာသနာ တော်အတွက် သမိုင်းဝင် မှတ်တိုင်ကြီးတစ်ခု ဖြစ်ခဲ့သည်။

ထိုသင်္ဂါယနာတင်ပွဲကြီးကို အကြောင်းပြု၍ ဗုဒ္ဓဘာသာ မြန်မာ လူမျိုးတို့အတွက် ဝမ်းသာစရာ၊ ကြည်နူးစရာ၊ ဂုဏ်ယူစရာတွေ တသီကြီး ဖြစ်ခဲ့၏။ ထိုသင်္ဂါယနာတင်ပွဲကြီးသည် ထေရဝါဒဗုဒ္ဓသာသနာတော်၏ ဂုဏ်သရေကို တစ်မျိုးတိုးစေခဲ့၏။ မြန်မာရဟန်းတော်များ၏ ပရိယတ်၊ ပဋိပတ် စွမ်းပကားကို ကမ္ဘာတလွှားသို့ သိစေနိုင်ခဲ့၏။ မြန်မာပြည်သူ ပြည်သားတို့၏ သဒ္ဓါစွမ်းအား၊ ဒါနစွမ်းအား၊ ပညာစွမ်းအားတို့ကို ကမ္ဘာ့ လူထုက လေးစားရသည်အထိ ဖြစ်ခဲ့သည်။ ထို့ကြောင့် ဤဆဋ္ဌသင်္ဂါ ယနာတင်ပွဲကြီးသည် ဗုဒ္ဓသာသနာတော်အတွက် မြန်မာပြည်သူ၊ ပြည် သားတို့ အမွန်အမြတ် စိုက်ထူခဲ့သော သမိုင်းဝင်မှတ်တိုင်ကြီးအဖြစ် သာသနာတည်သရွေ့ တည်ရှိနေမည်သာဖြစ်၏။

ဤသင်္ဂါယနာတင်ပွဲကြီး၏ အကျိုးရလဒ်အနေအားဖြင့် ထေရ ဝါဒ ငါးနိုင်ငံရှိ ထေရဝါဒသံဃာတော်များ အချင်းချင်း အပြန်အလှန် လေးစားမှု၊ ချစ်ကြည်ရင်းနှီးမှုနှင့် စည်းလုံးညီညွတ်မှုများကို ထိုက်တန် သမျှ ရရှိခဲ့သည်။ ထေရဝါဒ သံဃာတော်များ၏ ပရိယတ်စွမ်းရည်ကို ကမ္ဘာက အသိအမှတ်ပြုခဲ့သည်။ ဖောက်ပြန်မှားယွင်းနေသော ပါဠိ၊ သဒ္ဒါ၊ ပုဒ်၊ ပါဌ်၊ အက္ခရာများကို ပြင်ဆင်နိုင်ခဲ့ကြသည်။ အထူးအားဖြင့် နိုင်ငံပေါင်းစုံရှိ ထေရဝါဒ သံဃာတော်များ၊ မြန်မာနိုင်ငံတွင်းရှိ ဂိုဏ်း ပေါင်းစုံ သံဃာတော်များကို တစ်သွေးတည်း၊ တစ်သားတည်း တညီ တညွတ်တည်းဖြစ်အောင် ဆောင်ရွက်ပေးနိုင်သော ဤဆဋ္ဌသင်္ဂါယနာ တင်ပွဲကြီး၏ ကျေးဇူးတရားကား အံ့သြမခန်း ရှိလှပေသည်။

## နှစ်ဆယ်ရာစု သာသနာ့အံ့ဖွယ်များ

ဤနှစ်ဆယ်ရာစု နှစ်များအတွင်း ပရိယတ္တိအကျော် ဆရာတော် သံဃာတော်များ အမြောက်အမြား ပေါ်ထွန်းခဲ့သည်။ မဟာစည်ဆရာ တော်ဘုရားကြီး၊ တိပိဋက ဆရာတော်ဘုရားကြီးတို့ကဲ့သို့သော သင်္ဂါယနာ အမေးအဖြေဝန်ဆောင်ဆရာတော်ကြီးများ၊ ဒီပနီကျမ်းများစွာကို ပြုစု ရေးသားခဲ့သော လယ်တီဆရာတော်ဘုရားကြီး၊ ဘာသာဋီကာကျမ်း များစွာကို ရေးသားခဲ့သော တောင်မြို့မဟာဂန္ဓာရုံဆရာတော်ဘုရားကြီးနှင့် အခြားအခြားသော ကျမ်းပြုဆရာတော်ကြီးများ၊ ပိဋကတ်သုံးပုံ နှုတ်ငုံ ဆောင်ဆရာတော်ကြီးများ စသည်ဖြင့် ဤနှစ်ဆယ်ရာစု ပရိယတ္တိ သာသနာတော်ကြီးသည် တက်နေအလား ရှိခဲ့သည်။

ပဋိပတ္တိသာသနာတော်ဘက်မှ ကြည့်မည်ဆိုလျှင်လည်း ပဋိပတ္တိဝန်ဆောင် ပုဂ္ဂိုလ်အကျော်အမော်များစွာ ပေါ်ထွန်းခဲ့သည်။ သီးလုံး ဆရာတော်ဘုရားကြီး၊ လယ်တီဆရာတော်ဘုရားကြီး၊ မင်းကွန်းဇေတဝန် ဆရာတော်ဘုရားကြီး၊ မဟာစည်ဆရာတော်ဘုရားကြီး၊ မိုးကုတ်ဆရာ တော်ဘုရားကြီး၊ စွန်းလွန်းဆရာတော်ဘုရားကြီး၊ ဝေဘူဆရာတော်ဘုရား ကြီး၊ တောင်ပုလုဆရာတော်ဘုရားကြီး စသည်ဖြင့် ပဋိပတ္တိဆိုင်ရာ ပုဂ္ဂိုလ်အကျော်အမော်များ မြန်မာပြည်အနှံ့အပြား၌ ပေါ်ထွန်းခဲ့သည်။ ထို့ကြောင့် နှစ်ဆယ်ရာစု ပဋိပတ္တိ သာသနာတော်ကြီးသည်လည်း လပြည့် ဝန်းကြီးပမာ ရှိခဲ့သည်။

ဤနှစ်ဆယ်ရာစုနှစ်၏ ထူးခြားသော သမိုင်းဝင်ဖြစ်ရပ် တစ်ခုမှာ ဂိုဏ်းပေါင်းစုံသံဃာ့ အစည်းအဝေးကြီးကို အောင်မြင်စွာ ကျင်းပနိုင်ခဲ့ခြင်းပင် ဖြစ်သည်။ သမိုင်းပေးတာဝန်အရ ထိုအစည်းအဝေး ကြီးကို အောင်မြင်စွာ ကျင်းပနိုင်ခဲ့ကြ၍ ဂိုဏ်းပေါင်းစုံ သံဃာ့အဖွဲ့အစည်း

ကြီးမှ ဦးစီးဦးဆောင်ပြုလျက် သာသနာတော်သန့်ရှင်းတည်တံ့ ပြန့်ပွားရေးကို အထူးကြိုးစားအားထုတ်ခဲ့ကြသည်။ ပရိယတ္တိသာသနာတော်ကြီးခိုင်ခံ့တည်မြဲရေးအတွက် နိုင်ငံတော်ပရိယတ္တိသာသနာ့တက္ကသိုလ်ကြီးများ (ရန်ကုန်၊ မန္တလေး)ကိုလည်း အောင်မြင်စွာ ဖွင့်လှစ်ပေးခဲ့ကြသည်။

ပြည်တွင်း၊ ပြည်ပ ဓမ္မဒူတ ခရီးစဉ်များ ကျယ်ပြန့်စွာ ဆောင်ရွက်နိုင်ခဲ့ကြ၍ သာသနာတော်အတွက် ဝမ်းသာစရာကောင်းလှပေသည်။ ပြည်တွင်းအတွက် တောင်တန်းသာသနာပြု လုပ်ငန်းများကို ထိရောက်စွာ အကောင်အထည်ဖော်နိုင်ခဲ့သလို၊ ပြည်ပအတွက် ဓမ္မဒူတ သာသနာပြုလုပ်ငန်းများလည်း အရှိန်အဟုန်အားကောင်းလာခဲ့သည်။ မဟာစည်ဆရာတော်ဘုရားကြီး၊ တောင်ပုလုဆရာတော်ဘုရားကြီး၊ ရွှေဟင်္သာဆရာတော်ဘုရားကြီး၊ မြင်းခြံ ကိုးဆောင်တိုက်ဆရာတော်ဘုရားကြီး အမှူးပြုသော သံဃမဟာနာယက ဆရာတော်ကြီးများ၊ မဟာစည်ရိပ်သာများမှ ဆရာတော်ကြီးများသည် ဓမ္မဒူတ သာသနာပြုလုပ်ငန်းများကို စွမ်းစွမ်းတမံ ဆောင်ရွက်တော်မူခဲ့ကြသည်။ နှစ်ဆယ်ရာစုနှစ်နောက်ပိုင်း၌ ကမ္ဘာ့သာသနာပြု (ဘဒ္ဒန္တသေဋ္ဌိလ)ဆရာတော်ကြီး၊ ပဏ္ဍိတာရာမရွှေတောင်ကုန်းဆရာတော်ကြီး၊ ချမ်းမြေ့ဆရာတော်ကြီး၊ သဒ္ဓမ္မရံသီဆရာတော်ကြီး၊ ဓမ္မာနန္ဒဆရာတော်ကြီး (U.S.A)နှင့် မြောင်းမြဆရာတော်ကြီး (U.K)စသော ဆရာတော်ကြီးများသည် နိုင်ငံခြားသာသနာပြု လုပ်ငန်းများ၌ အထူးအောင်မြင် ကျော်ကြားခဲ့ကြသည်။

## ဝမ်းနည်းဖွယ်ဖြစ်ရပ်များ

ဤနှစ်ဆယ်ရာစုနှစ်များအတွင်း ထေရဝါဒသာသနာနှင့်စပ်လျဉ်း၍ ဝမ်းနည်းဖွယ်ရာ အဖြစ်အပျက်များလည်း များစွာ ဖြစ်ပျက်ခဲ့

သည်။ အချို့သော ထေရဝါဒနိုင်ငံများ၌ ဗုဒ္ဓဘာသာကို အားပေး ချီးမြှောက်မှုမရှိသော အစိုးရများ နိုင်ငံတော်ကို လွှမ်းမိုးခဲ့ကြ၍ ထေရဝါဒ သာသနာ ညှိုးမှိန်ခဲ့ရ၏။ ထေရဝါဒသံဃာတော်များ မျိုးဆက်ပြတ်လုနီးနီး အထိ ဖြစ်ခဲ့ရ၏။ စေတီ၊ တန်ဆောင်း၊ ဘုရား၊ ကျောင်းကန်စသော သာသနာ့အဆောက်အအုံများသည်လည်း စစ်ဘေးစစ်ဒဏ်များကြောင့် အကြီးအကျယ် ပျက်စီးခဲ့ရသည်။ ဤသို့သော ဖြစ်ရပ်များကြောင့် နှစ်ဆယ်ရာစုနှစ် ထေရဝါဒသာသနာတော်သမိုင်းသည် အရုပ်ဆိုး အကျည်းတန် ဖြစ်ခဲ့ရ၏။ ထို့ကြောင့် နှစ်ဆယ်ရာစုသမိုင်းသည် ဝမ်းနည်း ဖွယ်ရာ၊ ကြေကွဲဖွယ်ရာတို့ဖြင့် ရောထွေးနေသည်ဟု ဆိုချင်၏။

မြန်မာနိုင်ငံတော်၏ နှစ်ဆယ်ရာစု သာသနာတော်သမိုင်းသည် ကဏ္ဍသစ်များကို ဖွင့်လှစ်နိုင်ခဲ့သည် မှန်သော်လည်း သာသနာတော်၏ အနှစ်သာရပိုင်း၌မူ တိုးတက်သင့်သလောက် တိုးတက်မလာပေ။ ကိုယ် ကျင့်သီလ သိက္ခာများ အများစု၌ အားနည်းနေဆဲဖြစ်ခြင်း၊ ရတနာ သုံးပါး၏ ဂုဏ်ကျေးဇူးများထက် နတ်တို့၏ တန်ခိုး၊ ဂါထာ၊ မန္တရား၊ အင်းအိုင်၊ လက်ဖွဲ့တို့၏ တန်ခိုးများကို ပို၍ အားကိုးယုံကြည်နေကြ သောကြောင့် သီလ၊ သမာဓိ၊ ပညာဟု ဆိုအပ်သော သိက္ခာသုံးပါးတို့ဖြင့် အခြေတည်ထားသော ထေရဝါဒသာသနာတော်၏ အနှစ်သာရများသည် ဆုတ်ယုတ်ရမည့် အနေအထားမျိုး၌ ရောက်ရှိနေ၏။ ဤနေရာ၌ စာရေး သူ၏ အမြင်ကို လေးလေးနက်နက် တင်ပြရသော် ဘာသာဝါဒများ ရောရောယှက်ယှက်၊ ရှုပ်ရှုပ်ထွေးထွေး ဖြစ်ရခြင်းမျိုးသည် သာသနာတော် အတွက် အန္တရာယ်ကြီးမားလွန်းလှ၏။ ဗုဒ္ဓသာသနာတော်၏ ပင်စည်ကြီး အစပျိုး၍ စိုက်ပျိုးရာဌာနဖြစ်သော အိန္ဒိယနိုင်ငံလို ဘုရားပွင့်တော်မူရာ ဌာန၊ သာသနာတော်ကြီး နေလို၊ လလို စည်ပင်ထွန်းလင်းခဲ့ရာ ဌာန

မျိုး၌ပင် ဗုဒ္ဓသာသနာတော်ကြီးအား ဘာသာဝါဒများ ရောထွေးခံခဲ့ရ၍ ကွယ်ခဲ့ရသေးလျှင် မြန်မာနိုင်ငံ၏ အနာဂတ်သာသနာတော် အခြေအနေသည် စိုးရိမ်မည်ဆိုပါက စိုးရိမ်စရာ အနေအထားမျိုးမှာ ရှိနေ၏။

သမိုင်းဆရာတို့ အဆိုအရ အိန္ဒိယပြည်၌ ဗုဒ္ဓသာသနာတော်ကြီး လုံးဝကွယ်ပျောက်သွားခဲ့ရသည့် အကြောင်းရင်းများမှာ ဗြာဟ္မဏဝါဒက ဝါးမျိုပြီး တန္တရယာနနှင့် ရောနှောသွားသောကြောင့်လည်းကောင်း၊ အခြားဘာသာဝင်များက ကျူးကျော်ဝင်ရောက်ပြီး ဗုဒ္ဓသာသနာတော်ကြီးကို ဝါးမျိုဖျက်ဆီးခဲ့ကြသောကြောင့်လည်းကောင်း ဗုဒ္ဓသာသနာတော်ကြီး အိန္ဒိယပြည်၌ ပျောက်ကွယ်သွားရသည်ဟု ဆိုကြ၏။

ယခုအခါ ထေရဝါဒသာသနာတော်အတွက် အားအကောင်းဆုံးဖြစ်သော မြန်မာနိုင်ငံ၏ သာသနာရေး အခြေအနေတို့သည် ရောရောထွေးထွေး ဖြစ်နေသည်ကို သတိပြုသူဦးရေ အလွန်နည်းလိမ့်မည်ဟု ထင်မြင်ယူဆမိသည်။ အဘယ့်ကြောင့်ဆိုသော် ဘုရားပွဲကိုပင် နတ်ပွဲဟု ထင်နေကြသော တဝဂူဘုရားပွဲကဲ့သို့သော ဘုရားပွဲများ၊ သံဃာကိုပင် ဂိုဏ်းဆရာအနေဖြင့်သာ ကိုးကွယ်၊ ဆည်းကပ်နေကြသည့်သူများ၊ ရတနာသုံးပါး၏ ဂုဏ်တော်အစွမ်းထက် နတ်များ၏ တန်ခိုးအစွမ်း၊ အင်း၊ အိုင်၊ လက်ဖွဲ့၊ ဓာတ်လုံးတို့၏ အစွမ်းက ပို၍စွမ်းသည်ဟု ယုံကြည်နေကြသူများ၊ 'အရဟံ'ဂုဏ်တော်ထက် 'ဥုံ မဏိ ပဒ္မေ ဟုမ်' မန္တန်က ပို၍ အကျိုးပေးသည်ဟု ယူဆနေသူများ၊ နောက်ဆုံး ကုန်ကုန်ပြောရလျှင် သံဃာတော်အချို့သည်ပင် အင်းအိုင်၊ လက်ဖွဲ့၊ ဓာတ်လုံးများကို ယုံယုံကြည်ကြည်ဖြင့် ဆောင်ယူနေကြသည့်အဖြစ်များ စသောအကြောင်းများကြောင့် အနာဂတ်သာသနာတော်အတွက် ရင်လေးစရာတွေ ဖြစ်ရပြန်၏။

## အားနာနေ၍ မဖြစ်နိုင်ပြီ

မြတ်ဗုဒ္ဓ၏ သာသနာတော်ကြီးကို အစဉ်မြတ်နိုးကြသော၊ အစဉ်စောင့်ရှောက်လိုကြသော ရဟန်း၊ ရှင်၊ လူ ပြည်သူအများတို့သည် ထေရဝါဒသာသနာတော်ကို စင်စင်ကြယ်ကြယ်၊ စစ်စစ်မှန်မှန် အနေအထားမျိုးဖြင့် ဆက်လက်တည်တံ့ပြန့်ပွားစေလိုကြလျှင် သာသနာတော်အတွက် အားနာနေ၍ မဖြစ်နိုင်ပြီ။ အတူလက်တွဲ၍ သာသနာတော်ကို စောင့်ရှောက်သင့်ပြီ။ အခြားဘာသာဝါဒ အယူအဆများနှင့် ရှုပ်ရှုပ်ထွေးထွေး၊ ရောရောနှောနှော မဖြစ်ရလေအောင် စောင့်ရှောက်ဖို့ အထူးလိုအပ်ပါသည်။

သာသနာတော်၏ အနှစ်သာရသည် မိမိတို့၏ ကိုယ်ကျင့်သိက္ခာပေါ်၌ တည်၏၊ လူတိုင်း လူတိုင်း မိမိတို့စွမ်းနိုင်သမျှ ကိုယ်ကျင့်သိက္ခာများကို တရားတော်နှင့်အညီ ကျင့်ကြံ၊ ပွားများ၊ အားထုတ်ကြခြင်းဖြင့် မြတ်ဗုဒ္ဓ၏ သာသနာတော်ကြီးကို စောင့်ရှောက်နိုင်ကြပေမည်။

နိဂုံးချုပ်အနေအားဖြင့် ရေးရမည်ဆိုလျှင် မြန်မာနိုင်ငံတော်၌ အမြစ်တွယ်၍ အခြေခံမှစ၍ ခိုင်ခံ့နေပြီဖြစ်သော ထေရဝါဒ ဗုဒ္ဓသာသနာတော်ကြီးကို အဓွန့်ရှည်စွာ ခိုင်မြဲစေရေးအတွက် မိမိတို့တစ်တွေအားလုံးမှာ လုံးဝတာဝန်ရှိ၏။ တရားဓမ္မနှင့်စပ်၍ အစစ်နှင့်အတုကို ခွဲခြားသိနိုင်ရန် တရားဓမ္မများကို လေ့လာခြင်း၊ ဖတ်ရှုခြင်း၊ မေးမြန်းခြင်း၊ နားထောင်ခြင်းတို့ကို အချိန်ရသလောက် ကြိုးစားသင့်ပေသည်။ သာသနာတော်အတွက် ပြောစရာ၊ ဟောစရာကြုံက ပြောရ၊ ဟောရပေမည်။ ရေးစရာ၊ ဆုံးဖြတ်စရာရှိက ရေးရ၊ ဆုံးဖြတ်ရပေမည်။ မပြောဘဲ၊ မဟောဘဲ၊ မရေးဘဲ၊ မဆုံးဖြတ်ဘဲ အားနာနေမည်ဆိုပါက သာသနာတော်အတွက် တစ်နည်းမဟုတ် တစ်နည်းဖြင့် နစ်နာစေနိုင်သည်။ ထို့ကြောင့် တစ်ဖက်သား၏ အယူဝါဒကိုလည်း မထိပါး၊ မပုတ်ခတ်၊

မြတ်ဗုဒ္ဓ၏ သာသနာတော်ကြီးကိုလည်း အခြားအယူဝါဒများ မရောထွေး မယှက်တင်ခံရအောင် အမှန်တရားများကို ရဲရဲရင့်ရင့် ရေးကြ၊ ပြောကြ၊ ဟောကြ၊ ဆုံးဖြတ်ကြခြင်းဖြင့် သာသနာတော်၏ သမိုင်းမှတ်တိုင်ကို တည့်မတ်စွာ စိုက်ထူနိုင်ကြပါစေသတည်း။



# ဘေးကင်း၍ အေးမြသောအရိပ်

လူသားတစ်ယောက်၏ ဘဝသည် ဓမ္မနိယာမအားဖြင့် ဆင်ခြင်သုံးသပ်ကြည့်မည်ဆိုလျှင် ဘာဆို ဘာမျှ ရေရေရာရာ မရှိလှ။ ထိုသူ၏ ဘဝသည် ထိုသူ၏ ဆန္ဒကို ဘယ်သောအခါမှ လွယ်လွယ်နှင့် လိုက်လျောလိမ့်မည် မဟုတ်ပေ။ ထို့ကြောင့် လူသားတိုင်း၏ ဘဝ၌ ဖြစ်ချင်တာ ဟူသမျှတို့သည် မဖြစ်တာ များပြီး၊ မဖြစ်ချင်သည့်အရာ ဟူသမျှတို့သည် မဖိတ်ခေါ်သော်လည်း ဖြစ်ချင်လျှင် ဖြစ်လာကြပြန်၏။ ဖြစ်လွယ် ပျက်လွယ်သည့် ဤဘဝကို ဓမ္မသချ်ာနည်းဖြင့် တွက်ချက်ကြည့်မည်ဆိုလျှင် ဘဝတစ်ခု၏ နောက်ဆုံးအကြွင်းသည် 'သုည'ပင် ဖြစ်ပေလိမ့်မည်။

စာရေးသူသည် မိမိ ဖြတ်သန်းလာခဲ့သော မိမိ၏ ဘဝကို မကြာခဏ ဆိုသလို တွေးတောမိ၏၊ ဆင်ခြင်ကြည့်မိ၏။ ထိုအခါ ကလေးဘဝက ဖြစ်ပျက်ခဲ့သမျှတို့သည် မနေ့တစ်နေ့ကပဲ ဖြစ်ပျက်သွားခဲ့သည်ဟု

ထင်မိသည်။ ကျောင်းနေစအရွယ်၊ ကိုရင်ဖြစ်စအရွယ်၊ ပဥ္စင်းဖြစ်စ အရွယ် စသော မိမိဘဝ ဖြစ်စဉ်တို့ကို ကွင်းကွင်းကွက်ကွက် မှတ်မိနေဆဲ ဖြစ်၏။ အကယ်၍သာ မိမိဘဝ၏ သက်တမ်းသည် ရှစ်ဆယ်ဖြစ်မည် ဆိုလျှင် ယခုအခါ မိမိ၏ သက်တမ်းသည် တစ်ဝက်ကျိုးခဲ့ပြီ။ ပထမ အရွယ်သည် မနေ့ကပဲ ကုန်လွန်သွားခဲ့သည်ဟု ဆို၍ရလျှင် တတိယ အရွယ်သည် မနက်ဖြန်ခါ လာပေလိမ့်မည်။ မနက်ဖြန်ဆိုသည့် အချိန်သို့ မရောက်မီ ဤနေ့အဖို့ ဘဝအတွက် ဘာတွေ လုပ်ထားသင့်သည်ကို စာရေးသူသည် ယခုအထိ မရေရာသေးဘဲ ဖြစ်နေသည်။ မိမိချစ်သော မိမိ ဘဝအတွက် ဘာတွေ ပြုလုပ်ထားသင့်ပါသနည်း။

မသေချာသော ဘဝ၊ မရေရာသော ဘဝကို ထပ်ကာထပ်ကာ စဉ်းစားနေမိသော စာရေးသူသည် မသိမသာ အတွေးသမားတစ်ယောက် ဖြစ်မှန်းမသိ ဖြစ်ခဲ့ပြီ။ ကျေနပ်စရာ နည်းပါးလှသော မိမိဘဝကို စဉ်းစား မိတိုင်း ဝမ်းနည်းသလိုလို ခံစားမိ၏။ မမြဲတသော ဤလောကကြီးသည် အမှန်ကိုဆိုရသော် မုန်းစရာကောင်းလှ၏။ သို့သော် ဤအတွေး၊ ဤ အသိ၊ ဤခံယူချက်တို့သည် ငယ်ရွယ်စဉ်ဘဝက ဖြစ်ခဲ့သည်မို့ ဓမ္မအသိ ဉာဏ် မကြွယ်ဝသေးသော ငယ်ရွယ်သူ တစ်ယောက်၏ အသိကို အပြစ် ရယ်လို့လည်း မဆိုသာ။

မိမိတို့တစ်တွေ အားလုံးသည် မိမိတို့၏ ဘဝကို အကောင်းဆုံး ဖြစ်အောင် ကြိုးစားခဲ့ကြသူချည်း ဖြစ်၏။ မိဘ၊ ဆရာသမားများကလည်း မိမိတို့တစ်တွေ၏ ဘဝကို အကောင်းဆုံး အခြေအနေမျိုးသို့ ရောက်ရှိ အောင် အစွမ်းကုန် ပံ့ပိုးပေးခဲ့ကြ၏။ သို့ရာတွင် ကမ္မနိယာမ-ကံ၏ သဘောတရားအရ ဖြစ်သင့်သလောက်သာ ဖြစ်ခဲ့ကြ၍ ဆန္ဒ လုံးဝ ပြည့်သူရယ်လို့ ဤလောက၌ မရှိသလောက် ဆိုရလောက်အောင် ရှားပေ လိမ့်မည်။ အဘယ်ကြောင့်ဆိုသော ပုထုဇဉ်တစ်ယောက်၏ အလိုဆန္ဒ

သည် ပြည့်နိုင်ဖို့ ခဲယဉ်းလှသောကြောင့် ဖြစ်၏။

ပြည့်ဖို့ ခဲယဉ်းသော မိမိဆန္ဒ၏ အလိုကို မပြည့်နိုင်သည့် အဆုံး၌ မိမိတို့တစ်တွေသည် ဘဝကို စ၍ အပြစ်တင်လာကြ၏။ ကိုယ့်ကိုယ်ကိုလည်း အပြစ်တင်သည်၊ သူတစ်ပါးကိုလည်း အပြစ်တင်မိသည်။ 'ဘယ်သူမပြု မိမိမှု' ဟူသော ကမ္မနိယာမ သဘောကိုမူ မေ့ထားကြ၏။ မှန်မှန်ကန်ကန် သုံးသပ်ရမည်ဆိုလျှင် မိမိတို့တစ်တွေသည် ဘဝ၏ အထွတ်အထိပ် နေရာများသို့ မရောက်ခဲ့ကြသော်လည်း 'လူမှန်နေရာမှန်' ဘဝမျိုးကိုတော့ ရောက်ရှိခဲ့ကြပြီ။ စာသင်ချိန် အရွယ်၌ စာသင်ခဲ့ရ၏။ နေရာထိုင်ခင်းနှင့် အစားအစာများကို ပေး၍ စာသင်ပေးသော ဆရာများကိုလည်း တွေ့ခဲ့ရ၏။ ဤနည်းဖြင့် ကျေနပ်စရာ ကောင်းသော ဘဝကို တွေး၍ ဝမ်းသာတတ်မည်ဆိုပါလျှင် ဘဝ၌ ဝမ်းသာစရာတွေလည်း အများကြီး ရှိနေပြန်၏။

ကျေးဇူးကြီးမားသော မိဘများနှင့် ကျေးဇူးပြုတတ်သော ဆရာသမားများကို တွေ့ခွင့်၊ ကြုံခွင့်၊ ဆုံဆည်းခွင့် ရကြသော မိမိတို့တစ်တွေ၏ ဘဝသည် အကောင်းများထဲမှ အဆိုးကို နုတ်ကြည့်မည်ဆိုလျှင် အကောင်းချည်း ကျန်နေပေလိမ့်မည်။ မိဘများက လူလားမြောက်အောင် လိမ္မာယဉ်ကျေးအောင် ပြုစုပျိုးထောင်ပေးသည်။ ဆရာသမားများက ပညာတတ်မြောက်အောင်၊ ပညာကြွယ်ဝအောင်၊ လိမ္မာရေးခြားရှိအောင် လမ်းညွှန်ပေးသည်။ မိမိတို့ သင်ကြားထားသော ဗုဒ္ဓစာပေများက အသိမှန်နှင့် ဉာဏ်အလင်းကို ရအောင် အသိမှားနှင့် အမှောင်ကို ဖယ်ရှားပေးသည်။ ဤအချက်တစ်ခုတည်းကိုပင် ဉာဏ်ဖြင့် လေးလေးနက်နက် တွေးဆ ဆင်ခြင်ကြည့်မည်ဆိုလျှင် မိမိတို့တစ်တွေ၏ ဘဝသည် ဝမ်းသာစရာတွေ အများကြီး ဖြစ်နေ၏။

မိမိတို့တစ်တွေ အားလုံးသည် ကျမ်းဂန်လာ ''မျက်မှောက်

ဘဝ၌ အောင်မြင် ကြီးပွားကြောင်း စက်ကြီးလေးပါး''နှင့် ပြည့်စုံသူများ ဟု ဆိုနိုင်သည်။ လူမှန်နေရာမှန် ရောက်အောင် ပို့ဆောင်ပေးတတ်သော ရှေးရှေးဘဝက ပြုခဲ့ဖူးသော ကောင်းမှုကုသိုလ်ထူးများလည်း ပါသင့် သလောက် ပါခဲ့ပြီ၊ အနှိုင်းမဲ့မြတ်ဗုဒ္ဓ၏ တရားဒေသနာတော်များ၊ ပိဋကတ် တော်များကို သင်အံခွင့်၊ လေ့လာခွင့်၊ ကြားနာခွင့်ရသော နေရာမျိုး၌ နေခဲ့ရပြီ။ ဘဝတိုးတက်ရေးနှင့် အသိဉာဏ်ဖွံ့ဖြိုးရေးတို့အတွက် အားပေး အားမြှောက်ပြုပေးသော အမိကောင်း၊ အဘကောင်း၊ ဆရာသမား ကောင်းတို့နှင့်လည်း တွေ့ခဲ့ရပြီ။ ကိုယ့်ကိုယ်ကို စောင့်စောင့်ထိန်းထိန်းဖြင့် ကိုယ်ကျင့်သီလတို့ကိုလည်း စောင့်ထိန်းခဲ့ပြီ။ အသိမှန်နှင့် အသိဉာဏ်ကို တိုးပွားစေနိုင်သော ပညာများကိုလည်း ဆည်းပူးခဲ့ပြီ။ ဤ စက်ကြီး လေးပါးကို အခြေခံ၍ မိမိတို့တစ်တွေသည် အောင်မြင်မှုများကို ရသင့် သလောက် ရခဲ့ကြပြီဖြစ်၏။ သို့သော် အပြစ်ကင်း၍ လှပသော ဘဝ တစ်ခုကို တည်ဆောက်နိုင်ရေးအတွက် အောင်မြင်မှုကို အခြေခံ၍ ဂုဏ် ရှိရေး၊ ထင်ပေါ်ကျော်ကြားရေးကိုမူ အလေးမပေးသင့်ပေ။ အဘယ် ကြောင့်ဆိုသော် ဂုဏ်ရှိငြားသော်လည်း အပြစ်မကင်းစင်က မိမိတို့ တစ်တွေ၏ ဘဝသည် စိတ်ချမ်းသာမှုကို ရနိုင်မည် မဟုတ်ပေ။ ဂုဏ် ရှိရေးထက် အပြစ်ကင်းစင်စွာ နေထိုင်နိုင်ရေးက ပို၍ အရေးကြီးပါ သည်။ အပြစ်ကင်းစင်ပါက ဂုဏ်ဆိုသည်မှာ အလိုလိုပင် ရောက်လာ တတ်စမြဲ ဖြစ်သည် မဟုတ်ပါလား။

အတ္တသမ္မာပဏိဓိ–ကိုယ့်ကိုယ်ကို ထိန်းထိန်းသိမ်းသိမ်း နေ နိုင်ခြင်း ဖြစ်ရေးအတွက် ဦးစွာပထမ စိတ်ကောင်းရှိအောင် မွေးမြူဖို့ လိုသည်။ ထို့နောက် ကိုယ်ကျင့်သီလတွေ ဖြူစင်အောင် စောင့်ထိန်းရ ပေမည်။ ပိဋကတ်တော်လာ တရားဒေသနာတော်များကို မိမိ သင်ယူ လေ့လာထားသည့်အတိုင်း ဓမ္မသုခ–တရားချမ်းသာများကို ကိုယ်တိုင်

ကိုယ်တွေ့ ခံစားနိုင်ရန် သမထ၊ ဝိပဿနာ ဘာဝနာ အလုပ်တစ်မျိုးမျိုးကို အခါအခွင့်သင့်သလို အားထုတ်ထားရမည်။ ဤနည်းဖြင့် အတ္တသမ္မာပဏိဓိစက်ကို ပို၍ လည်ပတ်စေနိုင်မည်။ အချုပ်အားဖြင့်ဆိုရလျှင် စက်ကြီးလေးပါးတို့တွင် နောက်ဆုံး စက်ကြီးဖြစ်သည့် အတ္တသမ္မာပဏိဓိစက်သည် ကုသိုလ်တရားများ ဖြစ်ပွားနိုင်ရေး၊ ပါရမီကုသိုလ်များ တိုးပွားနိုင်ရေးတို့အတွက် အရေးကြီးဆုံးစက်ဟု ဆိုသင့်လှပေသည်။

စာရေးသူ၏ ဘဝသည် အများဘဝနှင့် ယှဉ်ကြည့်မည်ဆိုလျှင် ပညာရေး၌ အောင်မြင်မှု အနည်းဆုံးရှိသူတစ်ယောက် ဖြစ်ကောင်းဖြစ်မည်။ ဤအတွက်၊ ဤအတွေး၊ ဤအမြင်များကြောင့် ငယ်စဉ်ကဆိုလျှင် မိမိဘဝကို မိမိ အတော်ကို မကျေမနပ် ဖြစ်ခဲ့မိ၏။ ပညာရေးလောက၌ အောင်မြင်မှုနည်းခဲ့ရခြင်း၏ အဓိကအကြောင်းရင်းမှာ ပညာကို အခြေတည်စ သင်ဦးစ၌ သပ္ပုရိသူပ နိဿယ–အမှီကောင်းကို ရရှိမှုစက် အားနည်းခဲ့သောကြောင့် ဖြစ်ကောင်းဖြစ်ပေလိမ့်မည်။ သို့သော် ပညာမထူးချွန်သော်လည်း စိတ်ကောင်း၊ စေတနာကောင်းထားတတ်ဖို့ ဆရာသမားများထံမှ အတွေးသစ်၊ အမြင်သစ်တို့ကို ရခဲ့သည်။ ထိုအတွေးသစ်၊ အမြင်သစ်တို့ကို အခြေခံ၍ ကျေးဇူးသိစိတ်၊ တာဝန်သိစိတ်တို့ကိုလည်း အမွေအနှစ်တို့သဖွယ် ရရှိခဲ့ပြန်သည်။ စာရေးသူသည် ကျေးဇူးရှိသူများအပေါ်၌ ပြန်လည်၍ ကျေးဇူးမပြုနိုင်သေးသော်လည်း မိမိအပေါ်၌ တင်ရှိထားသော ဆရာသမားများ၏ ကျေးဇူးတရားကို သိသူတစ်ယောက်ဖြစ်အောင် ကြိုးစား၍ နေထိုင်ခဲ့ပြီ။ ဆရာသမားတို့၏ စနစ်တကျ သွန်သင်ညွှန်ကြားမှုကြောင့် တန်ဖိုးမဖြတ်နိုင်သည့် မြတ်ဗုဒ္ဓ၏ ဓမ္မဒေသနာတော်တို့ကို သင်ယူခွင့်၊ ကြားနာခွင့်၊ ထပ်တလဲလဲ လေ့လာခွင့်များ ရရှိခဲ့သည်ဖြစ်၍ စာရေးသူသည် မိမိဘဝအတွက် ကျေနပ်အားရ နှစ်သိမ့်နေမိ၏။ သို့ဖြစ်ပါ၍ ဆရာသမားတို့၏ ကျေးဇူးတရားကို

ဘယ်သောအခါမှ မေ့လိမ့်မည် မဟုတ်ပေ။

''လောက၌ ရနိုင်ခဲသူ နှစ်ယောက်ရှိသည်''ဟု အင်္ဂုတ္တရ နိကာယ်၌ မြတ်စွာဘုရား ဟောကြားခဲ့၏။ ၎င်းတို့ နှစ်ဦးမှာ (၁) ပုဗ္ဗ ကာရီ–ရှေးဦးစွာ ကျေးဇူးပြုတတ်သူနှင့် (၂) ကတညုတ ကတဝေဒီ–သူတစ်ပါး ပြုထားသော ကျေးဇူးတရားကို ပြန်၍ သိတတ်သူ၊ ဤသူ နှစ်ယောက်တို့ ဖြစ်၏။ ရနိုင်ခဲသော ဤပုဂ္ဂိုလ်နှစ်ယောက်စာရင်းတွင် မိဘနှစ်ပါးနှင့် ဆရာသမားများသည် မလွဲမသွေ ပါဝင်နိုင်သည်။ မိဘ များသည် သားသမီးများအား ကျေးဇူးတရားကို အလျင် စပြုသူဖြစ် သကဲ့သို့ ဆရာသမားများသည်လည်း တပည့်များအပေါ်၌ ကျေးဇူး တရားကို အလျင် စပြုသူများ ဖြစ်ကြ၏။ ထို ဆရာသမားများသည် သူတို့၏ ဆရာ့ဆရာများထံမှ ဗုဒ္ဓစာပေများကို သင်ယူခွင့် ရခဲ့ကြ၍ ထိုကျေးဇူးတရားများကို မမေ့သောအားဖြင့် ဆရာ့ဆရာများ တည် ထောင်ထားခဲ့သော ကျောင်းတိုက်ကြီးများ မပျက်မစီးရလေအောင် စောင့် ရှောက်လျက် နေထိုင်ကြ၏။ ဤသို့ စောင့်ရှောက်နေခြင်းသည် ဆရာ့ ဆရာများ၏ ကျေးဇူးတရားများကို ပြန်၍ ပေးဆပ်နေသည်မည်၏။ ပါဠိစာပေများကို တပည့်များအား ပို့ချပေးနေခြင်းဖြင့် ဘုရားရှင်၏ ကျေးဇူးတရားများကိုလည်း ပြန်လည်၍ ပေးဆပ် ပူဇော်ရာ ရောက်သည်။

ဤနေရာ၌ နီတိ ဆရာတို့၏ အဆိုပြုချက်သည် မှတ်သားဖွယ် ကောင်းလှ၏။ လောက၌ရှိသော အရိပ်တကာတို့တွင် ဘုရားရှင်၏ တရား ရိပ်သည် အအေးမြဆုံးဖြစ်၏။ သို့သော် တရားရိပ်မှတစ်ပါး ဆရာသမား များ၏ အရိပ်သည် အခြားအခြားသော အရိပ်တကာတို့ထက် ဘေး ကင်း၍ အေးမြသော အရိပ်ဖြစ်သည်ဟု အဆိုပြုကြ၏။ ဆရာ၏ အရိပ်ကို ရည်ညွှန်းရာ၌ စာရေးသူ၏ အယူအဆသည် အများ၏ အယူအဆနှင့် တူချင်မှ တူပေလိမ့်မည်။ စာရေးသူ၏ အယူအဆမှာ တပည့်တစ်ယောက်

သည် ဆရာသမားများနှင့် တစ်ကျောင်းတည်း၊ တစ်တိုက်တည်းနေမှ ဆရာသမားများ၏ အရိပ်၌ ကောင်းမွန်စွာ နားခိုနေခွင့်ရသည်ဟု မဆိုလိုပေ။ အမှန်ဆိုရလျှင် တပည့်တစ်ယောက်သည် ဘယ်အရပ်၊ ဘယ်ဒေသမှာနေနေ၊ ရောက်သည့်ဒေသ၌ ဆရာသမားများ၏ ဂုဏ်ကျေးဇူးကို အထူးသိလျက်လည်းကောင်း၊ ဆရာသမားများ၏ အဆုံးအမ ဩဝါဒများကို ဆက်လက်၍ လိုက်နာ ကျင့်သုံးလျက်လည်းကောင်း နေထိုင်ပါက ထိုတပည့်သည် ဆရာသမားများ၏ ဘေးကင်း၍ အေးမြသော ဆရာအရိပ်၌ ဆက်လက်နားခိုနေသည်ဟု ဆိုနိုင်လေသည်၊

တစ်ခါတစ်ရံ လောကကြီး၌ ဖြစ်လေ့ဖြစ်ထရှိသော နိယာမတစ်ခုမှာ တပည့်တစ်ယောက်သည် ဘေးကင်း၍ အေးမြသော ဆရာ၏ အရိပ်၌ နားခိုခွင့် ရနေပါသော်လည်း ထို အရိပ်၏ တန်ဖိုးကို နားလည်ချင်မှ နားလည်နိုင်မည်။ ထိုအရိပ်၌ နေရသည်ကိုပင် သူ့အတွက် ပျင်းစရာ၊ ငြီးငွေ့စရာ၊ အနှောင်အဖွဲ့တစ်ခုပမာ ထင်လာတတ်သည်။ ထိုအခါမျိုးမှာ ထိုတပည့်သည် အရိပ်မှ ထွက်ခွာရန် ကြိုးစားတော့သည်။ ခရီးဆက်ရင်း ခရီးပန်းလာပြီဖြစ်၍ အရိပ်၌ နားခိုဖို့ရန် အရိပ်တစ်ခုကို ကြိုးစား၍ ရှာဖွေရတော့၏။ ကန္တာရခရီးခဲ၌ ဘေးကင်း၍ အေးမြသော အရိပ်တစ်ခုကို ရနိုင်ဖို့ ဆိုသည်မှာ လွယ်ကူလှသည့် အရာကား မဟုတ်ပေ။

ဘဝခရီးကို ကန္တာရခရီးခဲနှင့် နှိုင်းယှဉ်ကြည့်မည်ဆိုလျှင် ပုဂ္ဂိုလ်တစ်ဦးတစ်ယောက်၏ ဘဝခရီးလမ်းသည် ကန္တာရခရီးခဲထက် ပို၍ ကြမ်းမည် ထင်၏။ ပညာသင်ချိန်၌ ပညာသင်ခွင့် မရရှာသော တပည့်တစ်ယောက်သည် ပညာချို့တဲ့မှုကြောင့် အမှားအမှန်ကို ဆင်ခြင်သုံးသပ်နိုင်သည့် ဉာဏ်မျိုး မရှိနိုင်ပြီ။ အကောင်းအဆိုးကို ဝေဖန်ဆုံးဖြတ်နိုင်သည့် အသိ၊ အလိမ္မာ၊ ဉာဏ်ပညာ ကင်းသော ထိုသူ၏

ဘဝမျိုးသည် အမှားတွေ များသည်ထက် များလာနိုင်သည်။ အန္တရာယ်တွေလည်း ကျရောက်လာနိုင်သည်။ ထို့ကြောင့် ငယ်စဉ်အခါ ပညာကို သင်ကြားခွင့် ရနေကြသော၊ ဘေးကင်း၍ အေးမြသော ဆရာတို့၏ အရိပ်၌ နားခိုခွင့် ရရှိနေကြသော စာသင်သားများ၏ ကံတရားသည် ကောင်းမွန်လှသည်ဟု ဆိုရပေတော့မည်။

နိဂုံးချုပ်အားဖြင့် ဆိုရသော် စာရေးသူသည် ရောက်သည့် ဒေသ၌ ကျေးဇူးပြုတတ်သော ဆရာသမားများကို မြတ်နိုးတတ်သူ ဖြစ်သည်။ ထို့ကြောင့်လည်း မိမိအပေါ်၌ တင်ရှိထားသော ဆရာသမားများ၏ ကျေးဇူးတရားတို့ကို အခွင့်အခါသင့်ပါက ပြန်လည်ပေးဆပ်နိုင်ရန် ကြိုးစားနေဆဲ ဖြစ်၏။ သို့ရာတွင် စာရေးသူသည် ညောင်တုန်းတိုက်နေ ဆရာသမားများ၏ အဝေးနေတပည့်တို့တွင် တစ်ပါးအပါအဝင် ဖြစ်သော်လည်း ယခုအခါ ပြည်ပ၌ သာသနာ့တာဝန်များ ထမ်းဆောင်နေဆဲ ကာလဖြစ်၍ တိုက်အုပ် တိုက်ကြပ် ဆရာတော်များ၊ နာယကအဖွဲ့ဝင် စာချဆရာတော်များနှင့် ဒကာ၊ ဒကာမများက ကြီးမှူးကျင်းပ ပြုလုပ်သော ညောင်တုန်း(ပါဠိတက္ကသိုလ်)ကျောင်းတိုက်ကြီး၏ အနှစ် (၅၀)မြောက် ရွှေရတုသဘင် ပွဲတော်ကြီးသို့ ပါဝင် တက်ရောက်နိုင်ခြင်း မရှိပေ။ သို့ဖြစ်ပါ၍ ကျေးဇူးရှင် ဆရာတော်များ အားလုံးကို အဝေးမှနေ၍ မြတ်နိုးစွာဖြင့် ရှိခိုး ကန်တော့ပါ၏။ ဤဆောင်းပါးဖြင့် အနှစ် (၅၀)ရှိနေပြီဖြစ်သော မိခင် ညောင်တုန်း (ပါဠိတက္ကသိုလ်) ကျောင်းတိုက်ကြီးကို ဂုဏ်ပြုလိုက်ပါ၏။ ပရိယတ္တိစာပေများကို သင်ကြားနေကြဆဲ၊ လေ့လာနေကြဆဲ ဖြစ်ကြကုန်သော ပရိယတ္တိဝန်ဆောင် ရဟန်း၊ သာမဏေ အားလုံးသို့လည်း ဘေးကင်း၍ အေးမြချမ်းသာသော ဆရာများ၏ အရိပ်အာဝါသအောက်၌ အေးချမ်းသာယာစွာဖြင့် ပရိယတ္တိစာပေများကို ဆက်လက်၍ ကြိုးစားသင်ကြားနိုင်ကြပါစေဟု ဆန္ဒပြုလိုက်ပါ

သတည်း။

ပွင့်သောပန်းတိုင်း မွှေး၍ မွှေးသောပန်းတိုင်း လန်းဆန်းနိုင်ကြပါစေ။



# သူ့စည်း ကိုယ့်စည်း

ရှင်တေမိတို့ နေထိုင်သော ဤလောကကြီးသည် နယ်ပယ်ဒေသအားဖြင့် ကျယ်ဝန်း၏၊ တောတောင်သဘာဝအားဖြင့် လှပ၏၊ ရေမြေပသာဒအားဖြင့် အေးမြ၏၊ ဤရွှေ့ ဤမျှ ကျယ်ဝန်း၊ လှပ၊ အေးမြနိုင်စွမ်းရှိသော ဤလောကကြီးအကြောင်းကို ရှင်တေမိတစ်ယောက် တစေ့တစောင်း စူးစမ်းလေ့လာကြည့်မိသည်။ အဘယ်ကြောင့်များ ဤလောကကြီးသည် ဤရွှေ့ဤမျှ လှပ၍ နေဘိသနည်း။

လှပသော ဤလောကကြီးကို သက်ရှိသက်မဲ့တို့ဖြင့် တန်ဆာဆင်ထားသည်ကို တွေ့ရ၏။ ရာသီအလိုက် ပန်းတွေပွင့်၏၊ အသီးတွေသီး၏။ ဆောင်း၊ နွေ၊ မိုးဥတုတို့ဖြင့် ရာသီအလှသဘာဝကို မျှတပေး၏။ ပွင့်ချိန်တန်ပွင့်၍ သီးချိန်တန် သီးကြသော သစ်သီးဝလံ၊ ပန်းမန်မျိုးစုံတို့သည် မိမိတို့ ပွင့်မြဲ၊ သီးမြဲ ရာသီနယ်နိမိတ်ကို မကျော်လွန်ကြသောကြောင့် ဤလောကကြီးသည် ပို၍ပင် လှနေသယောင် ရှိ၏။ မိုးရာသီမှာ ပွင့်သော ခရေပန်းတို့သည်လည်း မိုးရာသီမှာသာ ပွင့်ကြ၍ မွှေးရနံ့ပို၍ သင်း၏၊ ပို၍လှပ၏။ ဆောင်းရာသီမှာ ပွင့်သော သဇင်ပန်းတို့သည်လည်း ဆောင်းရာသီမှာသာ ပွင့်ကြ၍ တစ်မျိုးကျက်သရေရှိပြန်၏။

ထို့ကြောင့် သူတို့ ပွင့်ခွင့်၊ သီးခွင့်ရှိသော ရာသီမှာသာ သူတို့ ပွင့်ကြ၊ သီးကြ၍ သက်မဲ့တို့၏ သဘာဝအလှသည် သက်ရှိတို့၏ သဘာဝအလှ ထက်ပင် ပို၍ အံ့ချီးဖွယ်ကောင်းနေသည်ကို တွေ့ရပြန်၏။

ဤလောကကြီးကို လှသည်ထက်လှအောင် သက်ရှိတို့ဖြင့်လည်း တန်ဆာဆင်ထား၏၊ သက်ရှိသတ္တဝါတို့တွင် လူသည် ဉာဏ်အကြီးဆုံးဖြစ် ၏၊ ဆင်ခြင်တုံ၊ မြော်မြင်တုံရှိ၏၊ တရားသဘောဖြင့် လူ့အဆင့်အတန်းကို စံထားကြ၏၊ ထို့ကြောင့် တရားသဘောကို အရေးထားသော လူသား တစ်ယောက်၏ မြင့်မားသော စိတ်နေစိတ်ထား၊ အပြောအဆို၊ အမူအရာ တို့ကို ဘယ်အရာနှင့်မျှ တိုင်းတာ၍ ရနိုင်မည် မဟုတ်ပေ။ ဥပမာအားဖြင့် ထင်ရှားအောင် ဆိုရသော် . . . တရားရှင်၊ မဟာကရုဏာရှင် ဖြစ်တော် မူသော မြတ်စွာဘုရား၏ ကိုယ်အမူအရာ၊ နှုတ်အမူအရာ၊ စိတ်အမူအရာ တို့ကို ဉာဏ်ဖြင့် ကြည့်ရှု၊ ကြည်ညိုကြည့်ခြင်းအားဖြင့် သိနိုင်ပါသည်၊ အဘယ်ကြောင့် မြတ်စွာဘုရားသည် လောက၌ အတုမရှိ၊ အတူမရှိ ဖြစ်လာဘိသနည်း။ အဖြေကား . . . မြတ်စွာဘုရားသည် ဘယ်သော အခါမျှ ဓမ္မစည်းကို ကျော်လည်းမကျော်လွန်၊ ချိုးလည်းမချိုးဖောက် သောကြောင့် ဖြစ်၏။ ထင်ရှားသိသာအောင် ဆိုရသော် မြတ်စွာဘုရား သည် ဘယ်သောအခါမျှ မုသားမပြော၊ အတင်းအဖျင်း မပြော၊ ကုန်း မတိုက်၊ ရန်မတိုက်၊ မဆဲရေး၊ မတိုင်းထွာ၊ ရန်လည်းမမူ၊ ငြူစူမှုမျိုး လည်း မရှိသည့်အပြင် မနာလိုမှု ဝန်တိုမှုကင်း၊ အတ္တမာန်မာနတို့ပါ ကင်းရှင်သောကြောင့် တစ်လောကလုံး၏ လေးစား၊ ကြည်ညိုမှုကို ခံတော်မူထိုက်ခြင်း ဖြစ်၏။ "ဓမ္မစည်းကို ဘယ်သောအခါမျှ မကျော်လွန် သော မြတ်စွာဘုရားအား ရှိခိုးပါ၏ . . .။"

တရားရှိသူ၊ တရားတော်နှင့်အညီ အမြဲတမ်း ကျင့်ကြံနေထိုင် သူတို့၏ ဓမ္မချမ်းသာ၊ ဓမ္မပီတိ၊ ဓမ္မရသတို့ကို စာရေးသူတို့တစ်တွေ

အားကျသင့်၊ ကြည်ညိုသင့်လှပေသည်။ အတုယူ၍ ထိုချမ်းသာမျိုးကို ကိုယ်တိုင်ရနိုင်အောင်လည်း ကျင့်ကြံ၊ အားထုတ်သင့်ပေ၏။ 'အပ္ပမာဒေန သမ္ပာဒေထ–သတိဖြင့် ပြော၍ သတိဖြင့် နေထိုင်မည်ဆိုပါက သူတော် ကောင်းကြီးများ ရရှိသော ဓမ္မချမ်းသာမျိုးကို မိမိတို့တစ်တွေလည်း အစပျိုးအနေအားဖြင့် ထိုက်တန်သမျှ ထိုဓမ္မသုခကို ရရှိကြမည်ဖြစ်၏။ ထိုကဲ့သို့သော သူတော်ကောင်းတရားများ မိမိသန္တာန်၌ ခိုင်ခိုင်မြဲမြဲ တည်နိုင်ရန် မြတ်စွာဘုရားက– ''အတ္တာဟိ အတ္တနော နာထော– ကိုယ့်ကိုယ်ကို အားကိုး၍ သူတော်ကောင်းတရားများကို ကျင့်ကြံအား ထုတ်ရမည်''ဟု မိန့်မှာတော်မူခဲ့၏။

အမှန်ကိုဆိုရသော် ဉာဏ်ရှိပါသည်၊ ဆင်ခြင်တုံ၊ မြော်မြင်တုံ ရှိပါသည်၊ တရားရှိပါသည်ဆိုသော လူသားသည် ဤလောကကြီးကို ဓမ္မဖြင့် အလှဆင်ရမည့်အစား အဓမ္မဖြင့် ဤလောကကြီးကို တစ်နည်း မဟုတ် တစ်နည်းဖြင့် အကျည်းတန်စေခဲ့ကြ၏။ လူသားအချင်းချင်း မေတ္တာတွေ ပျက်ခဲ့ကြ၏၊ လောဘ၊ ဒေါသ၊ အတ္တ၊ မာန်မာနတို့ဖြင့် တစ်ဦးနှင့်တစ်ဦး မခေါ်မပြောနိုင်အောင် ဖြစ်ခဲ့ကြ၏၊ သတိကင်းပြီး အတ္တမီး၊ မာနမီး၊ ဒေါသမီးတို့ တဟုန်းဟုန်းတောက်လောင်နေသော လူတစ်ယောက်၏ ထိုအပူမီးကို တရားရေအေးဖြင့် ငြိမ်းသတ်ပေးဖို့ ဆိုသည်မှာ မလွယ်ရေးချ မလွယ်နိုင်ပေ။

ဤနေရာ၌ အလျဉ်းသင့်၍ ပြောရမည်ဆိုလျှင် သူတော်ကောင်း တို့၏ စိတ်နေသဘောထားသည် လူသားအားလုံး၊ သတ္တဝါအားလုံး၏ ညီညွတ်ရေး၊ စည်းလုံးရေး၊ ချမ်းသာရေးကို အမြဲတမ်း လိုလားကြ၏။ သူတော်ကောင်းများသည် မေတ္တာ၊ ကရုဏာ၊ ဉာဏ်ပညာတို့ဖြင့် ဤ လောကကြီးကို တတ်နိုင်သမျှ စောင့်ရှောက်နေကြ၏။ သို့သော် လောက လူသားများ တရားပျက်လာကြသောအခါ၊ တရားစည်းကို ချိုးဖောက်

လာကြသောအခါ၊ လူကလည်း လူ့စည်းမစောင့်၊ ရဟန်းကလည်း ရဟန်း စည်းမစောင့် ဖြစ်လာသောအခါ သံဝေဂတရား၊ သတိတရားတို့ဖြင့် နှုတ်ပိတ်၍သာ နေလိုကြတော့၏။ သာမကေအချို့ကို ထုတ်ပြရသော် ဆုံးမရန်ခက်ခဲသော ဒေဝဒတ်နှင့်ပတ်သက်၍ မြတ်စွာဘုရားသည် မေတ္တာ၊ ကရုဏာတော်တို့ဖြင့် နှုတ်ပိတ်၍ နေတော်မူခဲ့၏။ သံဃာတော် များ၏ ဆုံးမစကားကို အမြဲတမ်းပယ်ရှားသော၊ မာန်မာနကြီးခဲ့သော ရှင်ဆန္နမထေရ်ကို သံဃာတော်အားလုံးက ''ဗြဟ္မဒဏ်'' (သူပြောချင်ရာ ပြော၊ ပြုချင်ရာပြု၊ ဘာဆို ဘာမျှ မပြောမဆိုဘဲ လျစ်လျူရှုထားသော အပြစ်ဒဏ်တစ်မျိုး) တရားဖြင့် နှုတ်ဆိတ်နေခဲ့ကြ၏။ သူတော်ကောင်း တို့၏ အဆုံးအမကို မခံယူလိုကြသော ပုဂ္ဂိုလ်တို့၏ နှလုံးသားသည် မာကျောလွန်းလှ၍ အကျိုးဖြစ်ဖို့ထက် အပြစ်တွေဖြစ်ဖို့သာ များတော့၏။

သတိတရားလက်ကိုင်ထား၍ ရဟန်းကလည်း ရဟန်းစည်း၊ ရဟန်းဝိနည်းကို လိုက်နာသင့်၏၊ လူကလည်း လူ့စည်း၊ လူ့ဝိနည်းကို လိုက်နာသင့်၏။ (လူ့ဝိနည်းဆိုသည်မှာ ငါးပါးသီလ၊ အာဇီဝဋ္ဌမကသီလနှင့် သိင်္ဂါလောဝါဒသုတ်လာ အဆုံးအမတို့ကို ဆိုလိုသည်။) အကယ်၍သာ ရဟန်းကလည်း ရဟန်းစည်း၊ လူကလည်း လူ့စည်း၊ လင်ကလည်း လင်စည်း၊ မယားကလည်း မယားစည်း၊ မိဘကလည်း မိဘစည်း၊ သားသမီးကလည်း သားသမီးစည်း စသည်ဖြင့် 'သူ့စည်း၊ ကိုယ့်စည်း'ကို လေးလေးစားစား ရိုရိုသေသေဖြင့် လိုက်နာကြမည်ဆိုလျှင်၊ သတိတရား ဖြင့် သူ့စည်း၊ ကိုယ့်စည်းကို မကျူးကျော်ကြစတမ်း စောင့်ထိန်းထား ကြမည်ဆိုလျှင် ဤလောကကြီးသည် လှမြဲလှပနေမည်သာ ဖြစ်၏၊ အေးချမ်းမြဲ အေးချမ်းနေမည်သာ ဖြစ်၏။ လောကကြီး သာယာဝပြော ရေး၊ အေးချမ်းသာယာရေးသည် လူသားတို့အပေါ်၌ မှီတည်နေကြောင်း သတိပြုသင့်လှပေသည်။

လူ့အသိုင်းအဝိုင်း၌ နေကြသော မိမိတို့တစ်တွေအားလုံးသည် စကားကို တတ်တိုင်းပြော၍ မဖြစ်ပေ။ ပြောစရာရှိက မိမိ၊ သူတစ်ပါး မနစ်နာရအောင် အကျိုးလိုလားသော စကား၊ ညီညွတ်ရေးကို ရှေးရှု သော စကား၊ တရားနှင့်ယှဉ်သော စကား၊ မေတ္တာပါသော စကားမျိုးတို့ ဖြင့်သာ တစ်ဦးကိုတစ်ဦး ပြောဆိုသင့်လှပေသည်။ မပြောဆို မဝေဖန် သင့်သော (သို့မဟုတ်) ပြောဆို၊ ဝေဖန်ဖို့ အချိန်မတန်သေးသော ကိစ္စ တစ်ခုကို (သို့မဟုတ်) ပုဂ္ဂိုလ်တစ်ယောက်ကို မိမိက လွှန်လွှန်ကြူးကြူး ဝေဖန်ပြောဆိုမှုမျိုးသည်၊ သူတစ်ပါး၏ စည်းကို ချိုးဖောက်၍ ကျူးကျော် ဝင်ရောက်ခြင်းသည် ယဉ်ကျေးသောသူတို့ပြုမူသော အပြုအမူမဟုတ်ပေ။ အမှန်ဆိုရသော် ထိုပုဂ္ဂိုလ်မျိုးကြောင့် လောကကြီးသည် အကျည်းတန် ခဲ့ရ၏။ လူ့အဖွဲ့အစည်းများ အစည်းတွေ ပြယ်ခဲ့ရ၏။ ''ငါးခုံးမတစ် ကောင်ကြောင့် တစ်လှေလုံး ပုပ်ရသည့်''အဖြစ်မျိုးသည် စေ့စေ့တွေး ကြည့်က ဝမ်းနည်းဖွယ် ကောင်းလှပေ၏။

နိဂုံးချုပ်အနေအားဖြင့် ရေးရမည်ဆိုလျှင် အဖွဲ့အစည်းများနှင့် နေကြရသော၊ အဖွဲ့အစည်းများနှင့် မကင်းစကောင်းသော စာရေးသူတို့ တစ်တွေ အားလုံးသည် စကားတစ်ခွန်းကို လူသိ၊ ရှင်ကြား ပြောရတော့ မည်ဆိုလျှင် မိမိပြောမည့်စကားကို သင့်၊ မသင့် နှိုင်းချိန်သင့်၏။ အကျိုးရှိ မရှိ သတိဖြင့် သုံးသပ်ဆင်ခြင်သင့်၏။ သင့်လည်းသင့်၊ အကျိုးလည်း ရှိသော စကားကိုသာ များများပြောဆိုသင့်၏။ ဝေဖန်ခြင်းသည် လွယ်၏။ စကားကို တတ်တိုင်းပြောဆိုနေခြင်းမျိုးဖြင့် မိမိကိုယ်မိမိ ဂုဏ်မယူသင့် ပေ။ သင့်လည်းသင့်၊ အကျိုးလည်းရှိ၊ ဟုတ်မှန်သော စကားမျိုးသည် သာ လူသားအချင်းချင်း ညီညွတ်ရေး၊ ချစ်ကြည်ရေးကို ရှေးရှုစေပြီး၊ အဖွဲ့အစည်းများအားလုံး တိုးတက်ရေး၊ စည်ပင်ရေးကို အထောက် အကူ ပြုနိုင်မည်ဖြစ်သည်။ ထို့ကြောင့် စာရေးသူတို့တစ်တွေအားလုံး

ကာယကံမေတ္တာ၊ ဝစီကံမေတ္တာ၊ မနောကံမေတ္တာတို့ဖြင့် အချင်းချင်း ပြောဆိုဆက်ဆံကြခြင်းဖြင့် လောကကြီးကို အလှဆင်ကြပါစို့ဟု မေတ္တာဖြင့် တိုက်တွန်းနှိုးဆော်လိုက်ပါ၏။ သတိတရားဖြင့် အလှကိုယ်စီ ဆင်မြန်းနိုင်ကြပါစေသတည်း။



# ညီညွတ်ခြင်းသည် အင်အား

မြန်မာ့စာပေ၊ မြန်မာ့ယဉ်ကျေးမှု၌ 'ညီညွတ်ခြင်းသည် အင်အား' ဟူသော ဝေါဟာရစကားစုသည် ယနေ့ မျက်မှောက်ခေတ်အထိ နေရာယူထားဆဲဖြစ်၏။ ထိုစကားစုသည် 'Unity is strength' ဟူသော အင်္ဂလိပ်ဆိုရိုးစကားကို မြန်မာဘာသာသို့ တိုက်ရိုက် ဘာသာပြန်ဆိုထားခြင်းဖြစ်၏။ မည်သည့်လူမျိုး၊ မည်သည့်ဘာသာစကားဖြင့် ထို စကားစုကို အစပြုခဲ့သည်ဖြစ်စေ၊ ပညာရှိတို့၏ ဆိုရိုးစကားသည် လူသားတို့အတွက် တစ်နည်းမဟုတ် တစ်နည်းဖြင့် ကျေးဇူးပြုသည်သာဖြစ်၏။ သို့ရာတွင် ပညာရှိတို့၏ ဆိုရိုးစကားသည် အဓိပ္ပါယ်များ ကျယ်ဝန်းလှ၍ ဆိုလိုရင်းအဓိပ္ပါယ်ကို ဂဃနဏ မသိပါက အဓိပ္ပါယ် ပြန်ဆိုရာ၌ မူရင်းအဓိပ္ပါယ်မှ လွဲချော်သွားနိုင်သည်၊ ထို့ကြောင့် ဤစကားစုကို အကျဉ်းချုပ်၍ အဓိပ္ပါယ်ဖွင့်ဆိုရသော် လူမျိုးကြီးသည်ဖြစ်စေ၊ လူမျိုးငယ်သည်ဖြစ်စေ၊ ထိုလူမျိုးအတွင်း အချင်းချင်း ညီညွတ်မှုရှိမှ ထိုလူမျိုး (သို့မဟုတ်) ထိုအဖွဲ့အစည်း (သို့မဟုတ်) ထိုတိုင်းပြည်သည် အင်အားကြီးမား၍ တောင့်တင်းခိုင်မာနိုင်ပြီး တခြားလူမျိုးတို့ အလယ်(သို့မဟုတ်)

တခြားနိုင်ငံတို့၏ အလယ်၌ မျက်နှာပန်းလှ၍ ခန့်ညားထည်ဝါနိုင်သည်ဟု အဓိပ္ပါယ်ဖွင့်ဆိုနိုင်ပေသည်။

ဤနေရာ၌ 'အင်အား'ဆိုသည့် စကားစုကို အဓိပ္ပါယ် ဖွင့်ဆိုရာ၌ အပြုသဘောဆောင်သည့် လုပ်ငန်းစဉ်များ၌ အချင်းချင်း ချစ်ခင်ညီညွတ်၍ ဖြစ်ပေါ်လာနိုင်သော 'အင်အား'နှင့် အပျက်သဘောဆောင်သည့် လုပ်ငန်းစဉ်များ၌ အချင်းချင်း ညီညွတ်၍ ဖြစ်ပေါ်လာနိုင်သော 'အင်အား'ဟူ၍ အဓိပ္ပါယ်များ ဆင့်ပွားဖြစ်ပေါ်လာနိုင်ပြန်၏။ ထို့ကြောင့် ဤနေရာ၌ အရေးကြီးသည့် အကြံပြုချက်မှာ လုပ်ငန်းစဉ်တစ်ခုကို အကောင်အထည်ပေါ်ရန် ပြုလုပ်ဆောင်ရွက်ကြရာ၌ ထို လုပ်ငန်းစဉ်သည် အပြုသဘောဆောင်သည်၊ မဆောင်သည်ကို ကွဲကွဲပြားပြား သိနားလည်ရန် ဖြစ်၏။ ယင်းကို ပါဠိဘာသာအားဖြင့် 'သမ္မာဒိဋ္ဌိ'ဟု ခေါ်၏။ ကိစ္စတစ်ခုကို အတူတကွ ဆောင်ရွက်ကြရာ၌ ဦးစွာပထမ အသိရှင်းဖို့၊ အမြင်ရှင်းဖို့ အထူးလိုအပ်လှ၏။ အသိရှင်းမှ အမြင်ရှင်းနိုင်၏။ အသိမှန်မှ အယူမှန်နိုင်၏။ အသိမှားပြီဆိုလျှင် ကြံစည်သမျှ၊ ပြောဆိုသမျှ၊ ပြုလုပ်ဆောင်ရွက်သမျှ အရာအားလုံးတို့သည် အမှားတွေချည်း ဖြစ်နိုင်၏။ ထို့ကြောင့် မြတ်ဗုဒ္ဓသည် သတ္တဝါများအားလုံး အသိရှင်း၊ အမြင်ရှင်းစေရန် ဉာဏ်အလင်းကို ထွန်းလင်းပေးခဲ့ခြင်း ဖြစ်၏။

'ညီညွတ်ခြင်းသည် အင်အား'ဟု ဆိုရသော်လည်း အပြုသဘောဆောင်သည့် ကိစ္စမျိုး၌ ညီညွတ်မှသာ ကောင်း၏၊ စိတ်ကောင်းနှင့် အသိမှန်ကို ဖြစ်ပွားစေနိုင်သော မိမိ၊ သူတစ်ပါးအား စိတ်ချမ်းသာခြင်း၊ ကိုယ်ချမ်းသာခြင်း စသော အကျိုးတရားများကို တိုးပွားစေနိုင်သော ကိစ္စမျိုး၌ ညီညွတ်သော ညီညွတ်ခြင်းမျိုးကိုသာ လက်ခံကြိုဆိုသင့်၏။ မြန်မာပြည်ဖွား အားလုံးလိုလိုပင် 'ထင်းစည်းနှင့် အဘိုးအိုပုံပြင်'ကို ကြားဖူးကြ၏။ ထင်းစည်းကို ညီညွတ်ခြင်းနှင့် စံနမူနာ ထား၍ ထို

ထင်းစည်းကြီး အစည်းပြေသွားပါက အချင်းချင်း အမုန်းတရားတွေ ပွားနိုင်ကြောင်းနှင့် အစည်းပြေသော ထိုမိသားစု၊ ထိုလူမျိုးစု(သို့မဟုတ်) ထိုတိုင်းပြည်ကို ရန်သူများက ကြားဝင်၍ အလွယ်တကူ နှောင့်ယှက် နိုင်ကြောင်း၊ အန္တရာယ်ပြုနိုင်ကြောင်းကို အဘိုးအိုက သူ့သားများအား ဆုံးမသြဝါဒပေးခဲ့သော စကားပုံဖြစ်၏။ သို့သော် ညီညွတ်တိုင်း ကောင်း သည်ဟု 'လေ့နံ့ဓားထစ်' သဘောမျိုးတော့ တရားသေမှတ်မထားသင့်ပေ။ မဟုတ်ရာ၌ ညီညွတ်နေလျှင် ထိုညီညွတ်မှုမျိုးသည် မိမိ၊ သူတစ်ပါးအား စိတ်ဆင်းရဲမှု၊ ကိုယ်ဆင်းရဲမှုမျိုးကိုသာ ဖြစ်စေမည်ဖြစ်၏။ ထို့ကြောင့် မိမိတို့၏ ညီညွတ်မှုသည် မဟုတ်ရာ၌သာ ညီညွတ်နေမည်ဆိုလျှင် 'ထင်းစည်းကြီး အစည်းပြေသည်ကမှ ကောင်းသေး၏' ဟု ဆိုရပေတော့ မည်။ ညီညွတ်ခြင်းဟူသည် မွေးရာပါ ကံတရားမျိုးမဟုတ်ပေ။ ကာလ၊ ဒေသအလိုက်၊ လူမျိုးအလိုက်၊ နိုင်ငံအလိုက် အချင်းချင်းကို သင့်တင့် မျှတအောင် ပြုလုပ်ပေးခြင်းဖြင့် ရရှိလာသော အကျိုးရလဒ်သာဖြစ်၏။ ကိုယ်ပြောချင်ရာကို ဇွတ်ပြော၊ ကိုယ်လုပ်ချင်ရာကို ဇွတ်လုပ်သော တစ်ကိုယ်ကောင်းဆန်သည့် အတ္တစိတ်မျိုးသည် ဘယ်သောအခါမျှ ညီညွတ်ရေးကို ရှေးရှုလိမ့်မည်မဟုတ်ပေ။ အလိုက်သိမှု၊ ကိုယ်ချင်း စာနာမှု၊ ခွင့်လွှတ်မှု၊ အနစ်နာခံမှု၊ ကြီးသူကိုရိုသေ၊ ရွယ်တူကိုလေးစား၊ ငယ်သူကို သနားညှာတာမှု၊ အပြုသဘောဆောင်သည့် လုပ်ရပ်မျိုးကို အားပေးမှု၊ ကြိုဆိုလက်ခံမှု၊ ကုသိုလ်ဖြစ်ရေး၌ လိုလားမှု စသော ဤ အရည်အချင်းများသည် ညီညွတ်ခြင်း၏ အကြောင်းတရားများပင် ဖြစ်၏။ အလိုက်သိတတ်သော ပုဂ္ဂိုလ် (သို့မဟုတ်) လူမျိုးသည် အောင်မြင် ကြီးပွားတတ်၏။ ထိုပုဂ္ဂိုလ်မျိုးကို ဆရာသမားများကလည်း ချီးမြှောက် လို၏။ မိဘများကလည်း အားကိုးလို၏၊ မိတ်ဆွေ သူငယ်ချင်းများက လည်း ချစ်ခင်လို၏။ နောက်ဆုံး ကုန်ကုန်ပြောရလျှင် ထိုပုဂ္ဂိုလ်များကိုသာ

(ပညာအရည်အချင်းနှင့်လည်း ပြည့်စုံမည်ဆိုလျှင်) ခေါင်းဆောင်အဖြစ် တင်မြှောက်လိုကြ၏။ သို့သော် လူ့အသိုင်းအဝိုင်း၌ အလိုက်သိသူဦးရေက နည်းပါးနေသေး၏။ အလိုက်သိမှုဟူသည် လက်ရှိအခြေအနေကို သိနားလည်မှု၊ အခြေအနေအရပ်ရပ်ကို ခွဲခြား၍ သိတတ်မှုနှင့် လိမ္မာပါးနပ်မှု စသော အရည်အချင်းများကို အခြေခံ၍ ဖြစ်ပေါ်လာသော လူ့အရည်အချင်း၊ လူ့ဂုဏ်ရည်တစ်မျိုးပင် ဖြစ်၏။ ထို့ကြောင့် လောက၌ အောင်မြင်ကြီးပွားလိုသူတိုင်းသည် 'ငါ ဘယ်သူလဲ၊ ငါ ဘယ်အဆင့်အတန်းမှာ ရှိနေသလဲ' ဟူသော မှန်ကန်သောအသိဖြင့် ကိုယ့်ကိုယ်ကို အမြဲ သတိရှိသင့်ပေသည်။ အတ္တ၊ မာန်မာနတို့ကို ရှေ့တန်းတင်လျက် ကိုယ့်ကိုယ်ကို အထင်ကြီးသောစိတ်ဖြင့် စိတ်ထင်တိုင်း ထင်ရာစိုင်းခဲ့မည်ဆိုလျှင် ထိုသူ၏ ဘဝသည် ပျက်စီးဖို့သာ ရှိတော့၏။

'ညီညွတ်ခြင်းသည် အင်အား'ဟူသော ဤစကားစုနှင့် အလားတူသော စကားစုမှာ 'ညီညွတ်မှ ချမ်းသာ'ဟူသော စကားစုပင်ဖြစ်၏။ ဤစကားစုသည် မြတ်ဗုဒ္ဓ၏ 'သမဂ္ဂါနံ တပေါ သုခေါ'ဟူသော ဒေသနာတော်ကို တိုက်ရိုက် ဘာသာပြန်ဆိုထားခြင်းဖြစ်၍ အဓိပ္ပါယ်အားဖြင့် လေးနက်၏။ ကျမ်းဂန်သဘောဖြင့် လေးလေးနက်နက် မစဉ်းစားခဲ့လျှင် ဒေသနာတော်၏ အနှစ်သာရကို သိနားလည်ဖို့ ခက်၏။ ထို့ကြောင့် စကားတစ်လုံးချင်း၏ အဓိပ္ပါယ်ကို ပြန်ဆိုရသော် ''သမဂ္ဂါနံ၊ အယူသီလတူမျှသောပုဂ္ဂိုလ်တို့၏။ တပေါ၊ အကျင့်သည်။ သုခေါ၊ ချမ်းသာ၏။'' ဤနေရာ၌ 'အယူသီလတူမျှသည်' ဟု ဆိုရာ၌ သမ္မာဒိဋ္ဌိ=ဖြောင့်မှန်သော အယူရှိခြင်း (သို့မဟုတ်) အမြင်ချင်းလည်း တူညီပြီး၊ ကိုယ်ကျင့်သိက္ခာချင်းလည်း တူညီမှုမျိုးကို ဆိုလိုသည်။ လောကသဘော၌ အတွေးအခေါ်ချင်း၊ အမြင်ချင်းတူညီပြီဆိုလျှင် ထိုပုဂ္ဂိုလ်အချင်းချင်း လက်တွဲစ ပြု၏။ ညီညွတ်သယောင်ရှိ၏။ တေလေချင်း၊ ဂျပိုးချင်း၊ ဖဲသမားချင်း၊ အရက်

သမားချင်း ညီညွတ်နေမှုကို လောကအမြင်အားဖြင့် သိနိုင်ပေသည်။ သို့သော် ထိုပုဂ္ဂိုလ်တို့၏ ညီညွတ်ခြင်းမျိုးသည် အယူဖြောင့်မှန်ခြင်းဟူသော အနှစ်သာရ ဓမ္မသဘောများ ချို့ယွင်းနေသေးခြင်း၊ ကိုယ်ကျင့်သိက္ခာအားဖြင့်လည်း ထိုသူတို့၏ အပြုအမူတို့သည် မိမိ၊ သူတစ်ပါး (အိမ်သူ၊ အိမ်သား)တို့အား စိတ်ဆင်းရဲ၊ ကိုယ်ဆင်းရဲခြင်းများကို ဖြစ်စေနိုင်ခြင်းကြောင့် ကောင်းမြတ်သောအကျင့် (သို့မဟုတ်) အပြစ်ကင်းစင်သော ညီညွတ်ခြင်းမျိုးဟု မဆိုနိုင်ပေ။ ဒေသနာတော်က ညွှန်ပြသော ညီညွတ်ခြင်းဟူသည်မှာ အပြစ်ကင်းစင်၍ မိမိ၊ သူတစ်ပါးအား ကောင်းကျိုးချမ်းသာကို ဖြစ်ပွားစေနိုင်သော ညီညွတ်ခြင်းမျိုးကို ဆိုလိုပေသည်။ မြတ်စွာဘုရားဟောကြားခဲ့သော ထိုညီညွတ်ခြင်းမျိုးကို မိမိတို့တစ်တွေ ကာယကံမေတ္တာ၊ ဝစီကံမေတ္တာ၊ မနောကံမေတ္တာတို့ဖြင့် ကြိုးစား၍ အရယူကြမည်ဆိုလျှင် 'ညီညွတ်မှ ချမ်းသာ' ဟူသော စကားစုကို မှန်ကန်ကြောင်း သက်သေထူပြစရာပင် မလိုတော့ပြီ။

မြတ်ဗုဒ္ဓသည် လောကလူသားများ ကောင်းကျိုးချမ်းသာ၊ လောကီ လောကုတ္တရာ မင်္ဂလာများ တိုးပွားစေရေးအတွက် ညီညွတ်ရေးတရားတော်တို့ကို အခွင့်အခါသင့်တိုင်း ဟောကြားတော်မူခဲ့၏။ သဗ္ဗညုတဉာဏ်တော်အလင်းကို ရရှိတော်မူပြီးသည်မှစ၍ ညီညွတ်ရေးကို အခြေခံသော ငြိမ်းချမ်းရေးလမ်းစဉ်ကို တည်ထောင်တော်မူခဲ့၏။ သမ္မာဒိဋ္ဌိ=အမြင်မှန်ကို ရရှိခြင်းသည် ညီညွတ်မှုအတွက် အခြေခံအကြောင်းတရားဖြစ်၏။ ထို့ကြောင့် ထိုအမြင်မှန်ကို ရရှိရေးအတွက် သည်းခံရ၏။ ရသမျှဖြင့် ရောင့်ရဲရ၏။ ပိုင်ဆိုင်သမျှဖြင့် ကျေနပ်ရ၏။ ဘဝတိုးတက်ကြီးပွားရေးအတွက် တရားသဖြင့် မပျင်းမရိ ကြိုးစားရ၏။ ပြုသမျှ၊ ပြောသမျှ၊ ကြံစည်သမျှအားလုံး အပြစ်ကင်း၊ မကင်း ကိုယ့်ကိုယ်ကို သတိတရားဖြင့် သုံးသပ်ပေးရ၏။ အတ္တ၊ မာန်မာနတို့ကို ဓမ္မဖြင့် တတ်နိုင်သမျှ ချိုးနှိမ်

ပေးရ၏။ သူတော်ကောင်းတို့ထံ အခွင့်အခါသင့်တိုင်း ချဉ်းကပ်ရ၏။ ကိုယ့်ကိုယ်ကို ဓမ္မဖြင့် ကြီးစိုးနိုင်ရ၏။ သူတစ်ပါးတို့အပေါ် အနိုင်ယူချင်သည့်စိတ်၊ အသာယူချင်သည့်စိတ်၊ အပြစ်တင်လိုသည့်စိတ်တို့ကို လျော့နည်းသွားအောင် သတိတရားဖြင့် ဖယ်ရှားပေးရ၏။ ထိုအခါ ထိုပုဂ္ဂိုလ်အတွက် ထိုသစ္စာအမြင်တို့ကို ရရှိရန် လက်တစ်ကမ်း အလိုမှာသာ ရှိတော့၏။ အမြင်မှန်ကို ရရှိရန် အယူသီလတူမျှစွာဖြင့် ကြိုးစား၊ ကျင့်ကြံအားထုတ်နေသူတို့၏ ညီညွတ်မှုမျိုးသည် မြတ်ဗုဒ္ဓချီးမွမ်းတော်မူသော ညီညွတ်မှုမျိုးပင် ဖြစ်၏။

မိမိတို့တစ်တွေအားလုံး စိတ်ချမ်းသာ၊ ကိုယ်ချမ်းသာမှုများကို တကယ်တမ်း ရယူလိုကြပါလျှင် ဦးစွာပထမ ညီညွတ်ရပေမည်။ အချင်းချင်း ညီညွတ်ရေးအတွက် အချင်းချင်း အလိုက်သိရပေမည်။ အယူသီလတူမျှအောင်လည်း ကြိုးစားရပေမည်။ သူတော်ဓလေ့ဖြင့် ပျော်မွေ့နိုင်အောင်လည်း အားထုတ်ရပေမည်။ ထိုအခါ သင်လိုချင်သော (စာရေးသူအပါအဝင်) 'ညီညွတ် ချမ်းသာ'ဟူသော ထိုဆုမျိုးကို သင်ကိုယ်တိုင် သင့်ကိုယ်သင် အပ်နှင်းချီးမြှင့်နိုင်ပေလိမ့်မည်။ ထို့ကြောင့် ထိုက်ထိုက်တန်တန် ရရှိသော ထိုဆုမျိုးအတွက် သင့်ကိုယ်သင် ကျေးဇူးတင်ပါလေ။



# သူတို့အတွေး သူတို့အမြင်

စာရေးသူတို့နေထိုင်သော ဤလောကကြီးသည် အမြင်ပသာဒ အားဖြင့် လှပ၏။ တော၊တောင်၊ရေ၊မြေ သဘာဝတို့ဖြင့် အေးမြ၏။ သို့သော် ဤသြကာသလောကကြီးသည် အရှုခံသဘောတရားမျှသာ ဖြစ်၍ ရှုကြည့်တတ်သော သတ္တဝါတို့အပေါ်၌ မူတည်၍ လှမလှကို ဆုံး ဖြတ်တတ်ကြ၏။ ကြည့်သူက လောကကြီးကို လှအောင် ကြည့်တတ်လျှင် လောကကြီးသည် အလှတရားတို့ဖြင့် ဝေဆာနေတတ်၏။ ကြည့်သူက အကျည်းတန်အောင် ကြည့်ပြန်လျှင်လည်း ဤလောကကြီး အတွင်း၌ ရှိသော အရာရာတိုင်းသည် အကျည်းတန်နေကြပြန်၏။ ထို့ကြောင့် 'လှပမှု၊ အကျည်းတန်မှု' ဆိုသည်တို့မှာ ဤသြကာသလောကနှင့်မဆိုင်။ ကြည့်တတ်၊ မြင်တတ်သော သတ္တလောကနှင့်သာ ဆိုင်၏။ ဤသို့ဆိုလျှင် ဤသြကာသ လောကကြီးကို လှအောင်၊ အကျည်းတန်အောင် ဖန်ဆင်း နေသူတို့မှာ မည်သူတို့ပါနည်း။

သက်ရှိသတ္တဝါတို့တွင် လူသည် ဉာဏ်အကြီးဆုံး သတ္တဝါဖြစ်၏။ သို့သော် လူသည် ဉာဏ်အများဆုံး သတ္တဝါဟု ဆိုခဲ့လျှင် တချို့တချို့ သော လူများသည် စိတ်ဆိုးကောင်း စိတ်ဆိုးကြပေလိမ့်မည်။ ဆိုးကာမှ

ဆိုးရော့။ အမှန်တရားကို မမှန်တရားတို့ဖြင့်၊ ဓမ္မကို အဓမ္မဖြင့် အနိုင်ကျင့်တတ်သော အလေ့အထသည် လူသားတို့၌ အများဆုံးရှိ၏။ ငွေကြေးဓနတို့ဖြင့်လည်းကောင်း၊ ပညာရပ်အမျိုးမျိုးတို့ဖြင့်လည်းကောင်း၊ ရာထူးဂုဏ်သိန်တို့ဖြင့်လည်းကောင်း အချင်းချင်းပေါ် အနိုင်ကျင့်ရမှ လူသားတို့၏ သဘာဝသည် အိပ်ပျော်၊ စားဝင်ဟန်ရှိ၏။ နိုင်သူပြုံးတာကို ကြည့်ရှု၍ ဝမ်းမြောက်တတ်လျှင် ရှုံးသူမဲ့တာကိုလည်း ကြည့်ရှု၍ ကရုဏာသက်သင့်လှပေသည်။ နိုင်သူကိုမှ လက်ခုပ်တီး၍ အားပေးလိုသောလူသားတို့၏ နှလုံးသားသည် အကြင်နာမဲ့လွန်းလှသည်ဟု ဆိုချင်တော့၏။

## အားရှိ အားမဲ့ဝါဒ

စာရေးသူသည် သာသနာ့ တာဝန်များကို ထမ်းဆောင်ရင်း ကမ္ဘာအရပ်ရပ်သို့ အလျဉ်းသင့်သလို သွားနေရသည်။ ထိုသို့ သွားနေရစဉ် လူအမျိုးမျိုးနှင့် တွေ့ခဲ့ရသည်။ ဓလေ့ထုံးစံ အမျိုးမျိုးနှင့်လည်း ကြုံခဲ့ရသည်။ အယူဝါဒအမျိုးမျိုးနှင့်လည်း ရင်ဆိုင်တွေ့ကြုံခဲ့ရသည်။

ထိုသို့တွေ့ကြုံရတိုင်း စာရေးသူသည် မိမိ၏ အယူဝါဒ၊ မိမိ၏ ဘာသာစကား၊ မိမိ၏ ဓလေ့ထုံးစံများသည်သာ အမှန်ချည်းပဲဟု စိတ်ထဲ၌ စွဲမြဲစွာ ဘားလေ့မရှိချေ။ အဘယ်ကြောင့်ဆိုသော် ဓလေ့ထုံးစံ၊ ရိုးရာအယူအဆဆိုသည်တို့မှာ မှန်သည်လည်းရှိ၏၊ မှားသည်လည်းရှိ၏။ တစ်ခါတစ်ရံ ဘယ်ဟာက အမှန်၊ ဘယ်ဟာက အမှားဆိုသည်မှာ ပြောရန် ခက်ခဲလှ၏။ မှန်မှန်ကန်ကန် ဟောကြားထားသော မြတ်ဗုဒ္ဓ၏ တရားဓမ္မတို့ကိုပင် အမှားဟု လူများက သမုတ်ကြသောအခါ မှန်သောတရားသည်ပင် မှားသယောင်ယောင် ဖြစ်ရပြန်၏။ အားရှိ၊ အားမဲ့ဝါဒဖြင့် အများစုက မှန်သည်ဟု ယူဆခဲ့ကြလျှင် အမှားသည်ပင် အမှန်ဖြစ်

ရပြန်၏။ ထို့ကြောင့် လူသားတို့ ဆုံးဖြတ်ထားသော အမှား၊ အမှန်ဟူသည်တို့မှာ အဘယ်မှာလျှင် တရားမျှတနိုင်ပါတော့မည်နည်း။

အားရှိ အားမဲ့ အနိုင်ကျင့်တတ်သော လူသားတို့၏ စိတ်ဓာတ်ကို စာရေးသူသည် အမှန်တကယ်ပင် မလိုလားပေ။ ငြိမ်းချမ်းရေးကို လိုလားကြသော လူသားအားလုံးသည်လည်း ထိုအနိုင်ကျင့်မှုဝါဒကို လိုလားကြမည် မဟုတ်ပေ။ သို့သော် ဓမ္မလမ်းကြောင်းအတိုင်းသွားပြီး၊ ဉာဏ်တည်းဟူသော မှန်ပြောင်းဖြင့် အမှန်တရားကို သိမြင်နိုင်အောင် ကြည့်တတ်ဖို့တော့ လို၏။

ထိုသို့ ကြည့်ခြင်းဖြင့် အမှန်တရားကို သိမြင်လာသောအခါ အနိုင်ကျင့်သူတို့အပေါ် မကျေနပ်မှု ဒေါသ၊ မျက်မုန်းမှု အာဃာတတရားတို့သည် သိသိသာသာကြီး လျော့နည်းသွားနိုင်၏။ အဘယ်ကြောင့်ဆိုသော် သူတို့က သူများအပေါ် အနိုင်ကျင့်နေမှုသည် ဤတရားဆိုးများက သူတို့အပေါ် အနိုင်ယူ လွှမ်းမိုးထားသောကြောင့်သာ ဖြစ်၏။ အနိုင်ကျင့်နေသူတို့သည် သူတို့အား နှိပ်စက်နေသော၊ သူတို့သန္တာန်၌ ရှိနေသော သူတို့၏အတ္တ၊ သူတို့၏မာန်မာန၊ သူတို့၏ မှားယွင်းသော အယူအဆ၊ ဖောက်ပြန်သော အယူဝါဒတို့ကို မသိရှာကြသောကြောင့်သာဖြစ်၏။ လူသားတစ်ယောက်၏ သန္တာန်၌ရှိသော အတ္တစွဲသည် ကြောက်မက်ဖွယ်ရာ ကောင်းသလို သူ၏ မာန်မာနသည်လည်း ရွံမုန်းစရာ ကောင်းလှ၏။ မှားယွင်းသော အကြံအစည်၊ ဖောက်ပြန်သော အယူဝါဒတို့၏ စက်ဆုပ်ဖွယ် ကောင်းပုံကိုတော့ ပြောစရာပင် မလိုတော့ပြီ။ ဤရွေ့ဤမျှ ကြောက်မက်ဖွယ်ကောင်းသည့် ပပဉ္စတရား (သံသရာ၌ သက်ဆိုးရှည်စေတတ်သော တရား)ဆိုးတို့ကို ကြောက်မက်ဖွယ် ဘေးအနေဖြင့် ကြည့်တတ်၊ မြင်တတ်သူတို့၏ သန္တာန်၌ သံဝေဂဉာဏ်များဖြစ်ပွားဖို့ အခွင့်သာနိုင်၏။ ဤသည်ကိုပင် ဓမ္မအလင်းဟု ဆိုနိုင်သည်။

## ညီညွတ်မှ ချမ်းသာ

စာရေးသူသည် တရားစခန်းပွဲများမှ ပင့်ဖိတ်၍ နိုင်ငံအချို့သို့ အခွင့်အခါသင့်တိုင်း ကြွရောက်နေဆဲဖြစ်၏။ ကြွရောက်ခွင့်ရသည့် နေရာတိုင်း၌ မြတ်ဗုဒ္ဓ၏ ဒေသနာတော်နည်းအတိုင်း ဝိပဿနာတရားတို့ကို စာရေးသူစွမ်းနိုင်သလောက် ကြိုးစား၍ ပြသပေး၏။ အလုပ်ပေးတရားကိုလည်း သင့်သလို ဟောကြားပေး၏။ ထိုသို့ဟောရာ၌ မြန်မာလိုဟောသင့်သည့်နေရာ၌ မြန်မာလိုဟောကြားပေးပြီး၊ အင်္ဂလိပ်လို ဟောသင့်သည့်နေရာ၌ အင်္ဂလိပ်လို ဟောကြားပေးခဲ့၏။ ဓမ္မလမ်းကြောင်းမှ ခွဲထွက်၍ သူများ၏ အယူဝါဒများကို ပုတ်ခတ်၊ ပြောဆို၊ ဟောကြားမှုမျိုး မဖြစ်ရအောင် အထူးရှောင်ကြဉ်ခဲ့၏။ သူတို့လည်း သူတို့ကြိုက်သည့် အယူဝါဒကို ခံယူကျင့်သုံးပြီး၊ မိမိလည်း မိမိနှစ်သက်သည့် အယူဝါဒကို လက်ခံကျင့်သုံးနေသည်ဖြစ်၍ ဘယ်သူ့ဘယ်သူကိုမှ ပုတ်ခတ်ပြောဆိုစရာ မလိုပေ။ ဒါ့သည်ပင် ညီညွတ်ရေးနှင့် ငြိမ်းချမ်းရေးကို ရှေးရှုသောလမ်းစဉ်ဟု မိမိခံယူထား၏။ မိမိနားလည်ထားသော မြတ်ဗုဒ္ဓ၏ လမ်းစဉ်ဆိုသည်မှာ ညီညွတ်ရေးကို အခြေခံသော ငြိမ်းချမ်းရေးလမ်းစဉ်ဖြစ်၏။ ထို့ကြောင့် မိမိတို့တစ်တွေအားလုံး တကယ်တမ်း ငြိမ်းချမ်းရေးကို လိုလားကြသည်ဆိုပါလျှင် ငြိမ်းချမ်းမှုရရေးအတွက် ညီညွတ်ရပေမည်။ ညီညွတ်ရေးအတွက် အချင်းချင်း အပြန်အလှန် နားလည်ဖို့ လိုအပ်လှသည်။ ဤနေရာ၌ အချင်းချင်း နားလည်မှုရှိခြင်းဆိုသည်မှာ အဘယ်သို့ပါနည်း။

စာရေးသူနားလည်ထားသော အချင်းချင်း နားလည်မှုမျိုးဆိုသည်မှာ တစ်ဦးအပေါ်တစ်ဦး အကျိုးလိုလားမှု၊ ခွင့်လွှတ်မှု၊ အနစ်နာခံသင့်က အနစ်နာခံမှု၊ အချင်းချင်း ရိုသေလေးစားမှု၊ အပြန်အလှန် အကျိုးပြုမှု သူ့စည်း၊ ကိုယ့်စည်းကို မကျူးကျော်စတမ်း စောင့်ထိန်း

ထားမှုနှင့် အပြန်အလှန်စောင့်ရှောက်မှုမျိုးကို ဆိုလိုသည်။ မ,တစ်ရာမှ ပေါက်ဖွားထားသော မ,တစ်ရာ သားသမီးတို့အတွက် စိတ်ဓာတ်ချင်း တူညီဖို့၊ အတွေးအခေါ်၊ အယူအဆချင်း တူညီဖို့၊ ဉာဏ်အမြင်ချင်း တူညီဖို့၊ လက်ခံ ကျင့်သုံးမှုချင်းတူညီဖို့ ဆိုသည်မှာ လူ့ပြည်မှ အပ်တစ်စင်းနှင့် ဗြဟ္မာပြည်မှ အပ်တစ်စင်းတို့ ထိပ်ချင်းထိရသည်ထက် ပို၍ ခက်ခဲသောအရာဖြစ်၏။ မတူညီသော အယူအဆနှစ်ခုကို တူညီမှု ရအောင် ညှိပေးဖို့ဆိုသည်မှာ လွယ်ကူလှသည့် အရာမဟုတ်ပေ။ လောက၌ အတုမရှိ၊ အတူမရှိ ဖြစ်တော်မူသော မြတ်စွာဘုရားသည်ပင် အယူသည်းလွန်းသော မိစ္ဆာဒိဋ္ဌိ အကြီးစားတို့အတွက် လျစ်လျူရှုတန် ရှုရကြောင်း ကျမ်းဂန်အထောက်အထားအရ သိရှိနိုင်ပေသည်။

## သူတို့ပြောတော့ ဟုတ်သလိုလို

စာရေးသူရောက်သည့် နိုင်ငံတိုင်း၌ ဤပြဿနာကို အများဆုံး ကြုံတွေ့ခဲ့ရ၏။ ထေရဝါဒီတို့အတွက် အများဆုံးထိုးနှက်ချက် ခံရမှုမှာ သက်သတ်လွတ်မစားမှု ပြဿနာပင် ဖြစ်သည်။ မဟာယာန ဗုဒ္ဓဘာသာ ဝင်တို့အတွက် သီလ၊ သမာဓိ၊ ပညာ ကျင့်စဉ်တရားတို့ကို ကျင့်သုံးရေး ထက် သက်သတ်လွတ်စားရေးက ပို၍ အရေးကြီးသယောင်ယောင် ဟောပြောနေကြ၏။ ရေးလည်း ရေးသားကြ၏။ အသားစားသူတို့သည် ဗုဒ္ဓဘာသာဝင် စစ်စစ်မဖြစ်နိုင်ကြောင်း၊ လူများအသားစားကြ၍ တိရစ္ဆာန် များ သေကျေပျက်စီးရကြောင်း၊ ဗုဒ္ဓဘာသာဝင် ဟူသမျှတို့သည် သက် သတ်လွတ် (Vegetarian)စားခြင်းဖြင့် မဟာကရုဏာရှင်များဖြစ်သင့် ကြောင်း၊ ရဟန်းများအား သား၊ ငါး လှူဒါန်းသော ပုဂ္ဂိုလ်တို့သည် အစာအိမ်ရောဂါများပင် ရနိုင်ကြောင်း စသည်တို့ဖြင့် ထေရဝါဒ၏ အယူ

ဝါဒကို ပြင်းထန်သော စွပ်စွဲချက်များဖြင့် ထိုးနှက်လျက်ရှိနေကြ၏။ တရားအသိဉာဏ် မကြွယ်သူတို့အတွက် ထိုစကားရပ်များကို မှန်သည်ဟု ယူဆနေကြ၏။ မဟာပဒေသတရားတို့ဖြင့် ဆန်းစစ်မကြည့်တတ်လျှင် သူတို့ပြောသမျှ၊ ရေးသမျှတို့သည် ဟုတ်သယောင်ယောင် ဖြစ်နေ၏။

စာရေးသူအတွက် ဒီပြဿနာသည် အသစ်အဆန်းကြီး မဟုတ်လှ၍ တစ်ဖက်သတ်ပြောဆို၊ ပုတ်ခတ်ရေးနေသူတို့ကိုလည်း စိတ်မဆိုးလိုပါ။ သူတို့ပြောသည့်အတိုင်း တစ်ဆင့်ပြန်၍ ပြောဟောနေသူတို့အားလည်း ငြူစူမှုမဖြစ်ပါ။ အဘယ့်ကြောင့်ဆိုသော် ဒီသက်သတ်လွတ်စားမှု၊ မစားမှုပြဿနာသည် ဘုရားလက်ထက်ကပင်စ၍ တက်လာခဲ့သော ပြဿနာဖြစ်၏။ ဒေဝဒတ်ဦးဆောင်သော ရဟန်းအပေါင်းသည် ရဟန်းတော်များ အမြဲတမ်း သက်သတ်လွတ်စားရေးအတွက် ဘုရားရှင်အား သိက္ခာပုဒ်တော်ပညတ်ပေးပါရန် တောင်းဆိုခဲ့ဖူး၏။ ဘုရားရှင်သည် ထိုတောင်းဆိုချက်ကို ငြင်းပယ်ခဲ့ကြောင်း ကျမ်းဂန်များ၊ အထောက်အထားများ ရှိနေဆဲဖြစ်၏။ မြင်ခြင်း၊ ကြားခြင်း၊ ယုံမှားခြင်းမရှိသော အသားများနှင့် အသားကြီးဆယ်မျိုးမှ ကြွင်းသော ကျန်သော အသားများကို စားလိုက စားနိုင်ကြောင်း ဘုရားရှင်၏ ခွင့်ပြုတော်မူချက်ကို သူတို့ မသိကြလေရော့သလားမသိ။

## အားလုံးမှာ မပြစ်မရှိ

အကယ်၍သာ သက်သတ်လွတ်စားသူများသည် သက်သတ်လွတ်မစားသူများကို မပုတ်ခတ်ဘဲ၊ မငြူစူဘဲ ကျန်းမာရေးအတွက်ကြောင့်ဖြစ်စေ၊ ဘာသာရေးအတွက်ကြောင့်ဖြစ်စေ၊ မေတ္တာကမ္မဋ္ဌာန်း

စီးဖြန်းလိုသောကြောင့်ဖြစ်စေ၊ သက်သတ်လွတ်စားတာမျိုး ဖြစ်ခဲ့လျှင် စားသူမှာလည်း အပြစ်မရှိသလို၊ မစားသူမှာလည်း အပြစ်မရှိနိုင်ပေ။ အသားစားသူ ရှိလို့သာ သတ္တဝါများ သေကျေပျက်စီးရသည်ဟု ဤ အယူအဆကို အသည်းစွဲယူဆထားခဲ့လျှင် အသီးအရွက် စားသူတို့ကြောင့် အသီးအရွက်မှာရှိသော ပိုးမွှားများ အများအပြား ဖျက်ဆီးခံရကြောင်း ကိုလည်း မေ့မထားသင့်ပေ။ သက်သတ်လွတ် စားနေသူတို့စီးသော သားရေဖိနပ်၊ ထိုသူတို့ အသုံးပြုကြသော သားရေအိတ်တို့အတွက် တိရစ္ဆာန်များ သေကျေပျက်စီးရမှုကိုလည်း နှိုင်းနှိုင်းဆဆ တွေးတောသင့် လှပေသည်။ ထေရဝါဒတရားတော်အရ သတ္တဝါတို့ သေကျေပျက်စီးရမှု သည် စားသုံးသူတို့၏စေတနာ၊ ပယောဂ လုံးဝမပါရှိ၍ ပုံသကူအသား စားသော ပုဂ္ဂိုလ်တို့အတွက် အပြစ်လုံးဝ မရှိပေ။ ဤသို့မျှမျှတတ ကြည့်တတ် မြင်တတ်ပါမှ မိမိတို့၏ စိတ်နေသဘောထားသည် တရား မျှတမည်ဖြစ်ပြီး ညီညွတ်ရေးလမ်းကြောင်းပေါ်သို့ အတူလျှောက်လှမ်း နိုင်ကြပေလိမ့်မည်။

အမှန်ကိုဆိုရလျှင် ထေရဝါဒလမ်းစဉ်ပဲ ဖြစ်ဖြစ်၊ မဟာယာန လမ်းစဉ်ပဲဖြစ်ဖြစ် အားလုံး၏ အဓိကပန်းတိုင်သည် သံသရာ ဝဋ်ဆင်းရဲမှ လွတ်မြောက်၍ နိဗ္ဗာန်ကို မျက်မှောက်ပြုရန်ဖြစ်သည်။ 'တစ်လှေတည်း စီးပြီး တစ်ခရီးတည်း သွားနေသူချင်း' ဖြစ်ပါလျက်၊ အဘယ့်ကြောင့် ခရီးသွားဖော်အချင်းချင်းကို တံတောင်ဖြင့် တွက်ခြင်း၊ ခြေဖြင့် ကန် ကျောက်ခြင်း၊ နှုတ်လှန်ထိုးခြင်း စသည်တို့ကို ပြုလုပ်လိုကြပါသနည်း၊ အကျွန်ုပ်တို့တစ်တွေအားလုံးသည် မြတ်ဗုဒ္ဓ၏ ဓမ္မမိသားစုများဖြစ် ကြောင်း သတိမမေ့သင့်ပေ။

## ကျင့်စဉ်တရားနှင့် မြတ်နိဗ္ဗာန်

မြတ်ဗုဒ္ဓ၏ ကျင့်စဉ်တရားတို့သည် ရှင်း၏၊ တိကျ၏။ မြတ်စွာဘုရားသည် တရားတော်များကို ခက်ခက်ခဲခဲကြီးဖြစ်အောင် သွယ်ဝိုက်၍ ဟောကြားထားခြင်းမျိုးမရှိပေ။ မဂ္ဂင်ရှစ်ပါးပါ သတိပဋ္ဌာန်ကျင့်စဉ်သည် နိဗ္ဗာန်ရောက်ကြောင်း တရားများကို မသွယ်မဝိုက် တိုက်ရိုက်ဟောကြားထားခြင်းဖြစ်၏။ သတိဖြင့်စား၊ သတိဖြင့်ကြည့်၊ သတိဖြင့်ပြော၊ သတိဖြင့် သွားလာ နေထိုင်ခြင်းတို့သည် လောဘ၊ ဒေါသ၊ မာန်မာနနှင့် ဣဿာ မစ္ဆရိယ စသော ကိလေသာတရားဆိုးတို့ကုန်ရာ နိဗ္ဗာန်သို့ ရောက်စေနိုင်သည်။ ထို့ကြောင့် သက်သတ်လွတ် စားသူဖြစ်စေ၊ မစားသူဖြစ်စေ အစာစားသည့်အခါတိုင်း အစာအာဟာရအပေါ်၌ နှစ်သက်တွယ်တာမှုမျိုး ပြင်းထန်စွာဖြစ်နေမည်ဆိုလျှင် ထိုပုဂ္ဂိုလ်အတွက် ထိုကဲ့သို့သော စားခြင်းမျိုးသည် ရသတဏှာ ကုန်ခန်းနိုင်မည် မဟုတ်ပေ။ 'တဏှာမှ လွတ်မြောက်ရာကို နိဗ္ဗာန်'ဟုဆိုလျှင် ထိုပုဂ္ဂိုလ်တို့၏ စားခြင်းမျိုးသည် နိဗ္ဗာန်နှင့် နီးဖို့ထက် ဝေးဖို့အခြေအနေက ပို၍များနေ၏၊ ထိုသို့ဖြစ်လျှင် အစာအာဟာရများကို ရသတဏှာဖြင့် စားနေသူချင်း တူပါလျက် ငါက သက်သတ်လွတ်စားသူ၊ သင်က အသားစားသူဟု အချင်းချင်း ငြူစူစောင်းမြောင်းနေကြခြင်းဖြင့် အဘယ်အကျိုးရှိအံ့နည်း။

နိဂုံးချုပ်အနေအားဖြင့်ဆိုလျှင် ကျွန်ုပ်တို့တစ်တွေ အားလုံးသည် ဆရာတူတပည့်များ ဖြစ်ကြ၏။ ဖအေတူ သားသမီးများလည်း ဖြစ်ကြ၏။ စာရေးသူဆိုလိုသော ကျွန်ုပ်တို့၏ဆရာ၊ ကျွန်ုပ်တို့၏ အဖေဟူသည်မှာ မြတ်စွာဘုရားပင် ဖြစ်၏။ မြတ်စွာဘုရားသည် ငြိမ်းချမ်း၊ သာယာရေးကို အထူးလိုလားတော်မူ၏။ ငြိမ်းအေးသော နိဗ္ဗာန်တည်းဟူသော ပန်းတိုင်သို့ အရောက်လှမ်းနိုင်ကြရန် ညီညွတ်ရေးတရားများကို

များစွာဟောကြားတော်မူခဲ့၏။ ထို့ကြောင့် တစ်ဦး၏အပြစ်ကို တစ်ဦးက ထပ်တလဲလဲပြောဆိုနေမည်ဆိုလျှင် ပြောသူလည်းမကောင်း၊ အပြောခံရသူမှာလည်း စိတ်မချမ်းမသာဖြစ်ဖို့သာ ရှိတော့၏။ ထေရဝါဒ၊ မဟာယာန ဗုဒ္ဓဘာသာအချင်းချင်း မသင့်မတင့်ဖြစ်လျက် တစ်ဦးကိုတစ်ဦး ပုတ်ခတ်ပြောဆိုရေးသားနေကြမည်ဆိုလျှင် သူစိမ်း(အခြားဘာသာဝင်)တွေအတွက် ဝမ်းသာစရာ မင်္ဂလာသတင်းတွေ ဖြစ်သွားနိုင်၏။ ထို့ကြောင့် ထိုကဲ့သို့ အပြစ်မျိုး မဖြစ်ရလေအောင် ညီအစ်ကိုမောင်နှမအချင်းချင်း သစ္စာ၊ မေတ္တာ၊ အကြင်နာတရားတို့ဖြင့် အေးမြချမ်းသာသော နိဗ္ဗာန်သို့ အတူတကွ လျှောက်လှမ်းနိုင်ကြပါစေဟု ဆုမွန်များ ချွေနေမိပါတော့သတည်း။



# ဤမှန်ကန်သော သစ္စာစကားကြောင့်

အနှိုင်းမဲ့ မြတ်ဗုဒ္ဓ၏ သာသနာတော်ကြီးသည် မြတ်ဗုဒ္ဓ ပရိနိဗ္ဗာန်ဝင်စံတော်မူသည့် နှစ်မှစ၍ ရေတွက်မည်ဆိုလျှင် နှစ်ပေါင်း ၂၅၄၂–နှစ်ရှိခဲ့ပြီ။ နှစ်ပေါင်းများစွာကို ဖြတ်သန်းလာခဲ့ရသော မြတ်ဗုဒ္ဓ၏ သာသနာတော်ကြီးသည် တန်ဆောင်မုန်းလပြည့်နေ့၌သာသော လပြည့် ဝန်းကြီးကဲ့သို့ ဆီးနှင်း၊ မြူတိမ်စသော အပြစ်ငါးမျိုးတို့မှ အမြဲတမ်း ကင်းခဲ့သည်တော့ မဟုတ်ပေ။ ရံဖန်ရံခါ သန့်ရှင်းစင်ကြယ်၍ ရံဖန်ရံခါ ၌မူ အရောရော အနှောနှော ဖြစ်ခဲ့ရ၏။ သို့သော် ရဟန်း၊ သံဃာ ဆရာစဉ်ဆက် သာသနာတော်ကြီးကို အသက်ပမာ စောင့်ရှောက်ခဲ့ကြ၍ မြတ်ဗုဒ္ဓ၏ သာသနာတော်ကြီးသည် ဤရွှေ့ ဤမျှ ဤနေ့အထိ တည် နေခဲ့သည်ဟု ဆိုရပေမည်။

သို့သော် မြတ်ဗုဒ္ဓ၏ သာသနာတော်ကြီးသည် ခေတ်အဆက် ဆက်၊ မင်းအဆက်ဆက်တို့ကို ကျော်ဖြတ်လာခဲ့ရ၍ သာသနာတော်ကို တကယ်တမ်း တည်တံ့ ပြန့်ပွားအောင် ဆောင်ရွက်ခဲ့သူတို့သည် မည်သူ တို့ပေနည်းဟု မေးစရာ မေးခွန်းတစ်ခု ဖြစ်လာ၏။ ''သိကြား၊ ဗြဟ္မာတို့

ပေလော၊ ပြည့်ရှင်မင်းတို့ပေလော၊ ဝိဇ္ဇာ၊ ဇော်ဂျီ တပသီ စသော ဘိုးတော်တို့ပေလော''ဟု လောပေါင်းများစွာဖြင့် သာသနာတော်နှင့် ရင်းနှီးစပ်ဂျုလ်တို့အတွက် တွေးတောစရာတွေ၊ အသိရှုပ်ထွေးစရာတွေ ဖြစ်ရပြန်၏။

သက္ကပဥ္စ သုတ်၌ သိကြားမင်းကြီးသည် မြတ်စွာဘုရားထံမှ တရားစကားကို ကြားနာခွင့်ရခဲ့၍ သောတာပန် ဖြစ်ခဲ့၏။ ထိုအချိန်မှစ၍ သိကြားမင်းသည် သာသနာတော်ကို မတုန်မလှုပ်သောစိတ်ဖြင့် ကြည်ညို ခဲ့သောကြောင့် သာသနာတော်ကြီးကို တတ်နိုင်သလောက် အစောင့် အရှောက်တွေ ပေးခဲ့၏။ ဤသည်ကို ရည်ရွယ်၍ ဘုရားသာသနာကို သိကြား စောင့်သည်ဟု ပြောစမှတ် ပြုကြကုန်၏။ သို့သော် သိကြားမင်း သည် သာသနာတော်ကို ပံ့ပိုးစောင့်ရှောက်သူသာဖြစ်ခဲ့၏။ 'သာသနာပြု သူ' ဟူ၍ကား မဆိုနိုင်ပေ။ အဘယ်ကြောင့်ဆိုသော် သာသနာတော် တည်တံ့ပြန့်ပွားရေးအတွက် အဓိကအခန်းကဏ္ဍဖြစ်သော ပရိယတ္တိ စာပေကို ကိုယ်တိုင်သင်ကြားမှု၊ ပဋိပတ္တိ ကျင့်စဉ်များကို ကိုယ်တိုင်အား ထုတ်မှုမျိုးကို ပြုလုပ်နိုင်ခြင်း မရှိသောကြောင့် ဖြစ်၏။

ရေမြေသနင်း ပြည့်ရှင်မင်းတို့ကလည်း သူတို့သည်သာ 'သာသနာပြုသူ' တို့ဟု အထင်ရှိခဲ့ကြပြန်၏။ အဘယ်ကြောင့်ဆိုသော် သာသနာတော် တည်တံ့ပြန့်ပွားရေးအတွက် ဆွမ်း၊ သင်္ကန်း၊ ကျောင်း၊ ဆေး၊ ဤပစ္စည်းလေးပါးတို့ကို အများဆုံး ပံ့ပိုးပေးနိုင်သူတို့မှာ သူတို့သာ ဖြစ်၏။ ထို့ကြောင့် ပြည့်ရှင်မင်းတို့သည် သူတို့ကိုယ်သူတို့ သာသနာပြု မင်းများဟု အထင်ရှိခဲ့ကြ၏။ တိုင်းသူပြည်သားများကလည်း သူတို့၏ ပြည့်ရှင်မင်းများကို 'သာသနာပြုမင်းများ' ဟု မော်ကွန်းတင်ခဲ့ကြ၏။ အမှန်မှာမူ သာသနာတော်ကို ပစ္စည်းလေးပါးဖြင့် ထောက်ပံ့ရုံနဲ့တော့ သာသနာပြုမင်းဟု ပြောဆိုရန် ခက်လှ၏။

အစွန်းရောက်သော အမြင်အသိဖြင့် သာသနာတော်နှင့် မသင့်လျော်သော အမှုကိစ္စတို့ကို ပြုလုပ်ကြလျက် အသိဉာဏ်နည်းပါးသော သူတို့အား သာသနာပြု ပုဂ္ဂိုလ်ထူးကြီးများဟု အထင်ရောက်စေခဲ့ကြ၏။ ထိုအမှုမျိုးသည် အကောင်းမြင်သဘောမျိုးဖြင့် ကြည့်မည်ဆိုလျှင် ကောင်းသည်ဟု ဆိုနိုင်သော်လည်း သာသနာတော်ကို အမှီပြု၍ ကိုယ်ကျိုးအတွက် အမြတ်ထုတ်နေကြသည့် အဖြစ်မျိုးသည် သာသနာတော်အတွက် အကျည်းတန်သော လုပ်ရပ်မျိုးသာဖြစ်၏။ ပရိယတ်၊ ပဋိပတ် ကျင့်စဉ်မပါဘဲ ကိုယ့်ကိုယ်ကို 'သာသနာပြုပုဂ္ဂိုလ်ထူးကြီးများ' ဟု ထုတ်ဖော်ပြောဆိုရဲသော သတ္တိကား အာဂသတ္တိပေပဲ ဟုသာ ပြောဆိုချင်တော့၏။

ဤသို့ဆိုလျှင် မည်သို့သော ပုဂ္ဂိုလ်တို့ကို သာသနာပြု ပုဂ္ဂိုလ်တို့ဟူ၍ ခေါ်ဆိုဂုဏ်ပြုထိုက်သနည်း။

စာရေးသူ၏အမြင်ကို ဆိုရသော် ရဟန်းဖြစ်ဖြစ်၊ ရှင်ဖြစ်ဖြစ်၊ လူဖြစ်ဖြစ် မည်သူမဆို ဗုဒ္ဓဟောကြားခဲ့သော ပိဋကတ်စာပေတို့ကို ကိုယ်တိုင် စနစ်တကျ လေ့လာသင်ယူ၍ ပိဋကတ်တော်လာအတိုင်း သီလ၊ သမာဓိ၊ ပညာဟူသော ဤသိက္ခာသုံးရပ်ကို ကိုယ်တိုင်ကျင့်ကြံပွားများအားထုတ်လျက် သူတစ်ပါးတို့အားလည်း ကျင့်နည်းမှန်အတိုင်း ကျင့်ကြံအားထုတ်စေသူတို့ကိုသာလျှင် သာသနာပြုပုဂ္ဂိုလ်တို့ ဟူ၍ ခေါ်ဆိုဂုဏ်ပြုထိုက်ပေသည်။

## သံဃာတော်များ၏ အခန်းကဏ္ဍ

ဗုဒ္ဓသာသနာတော်ကြီး တည်တံ့၊ ထွန်းကား၊ ပြန့်ပွားရေးအတွက် ရဟန်းသံဃာတော်များသည် အဓိကကျသည့် အခန်းကဏ္ဍမှာ

ပါဝင်လျက်ရှိနေသည်ကို တွေ့နိုင်၏။ စာရေးသူသည် ကိုးနှစ်သားအရွယ်၌ ရှင်သာမဏေဖြစ်ခဲ့၍ သာသနာတော်နှင့်ရင်းနှီးနေသည်မှာ ကြာပြီဟု ဆိုရပေမည်။ ဤနှစ်များအတောအတွင်း ပရိယတ်၊ ပဋိပတ်သာသနာ တော်ကို တကယ်တမ်း စောင့်ရှောက်နေသူတို့မှာ ဆရာတော်၊ သံဃာ တော်များသာဖြစ်ကြောင်း လေ့လာ သိရှိခဲ့ရသည်။ 'တချို့ပုဂ္ဂိုလ်များ လည်း ပရိယတ်၊ ပဋိပတ်အလုပ်ကို အားထုတ်နေကြတာပဲ' ဟု ဆိုနိုင် သော်လည်း ဆရာတော်၊ သံဃာတော်များ၏ လုံ့လအားနှင့် ယှဉ်ကြည့် မည်ဆိုလျှင် စာဖွဲ့လောက်စရာ မရှိပေ။ လူပုဂ္ဂိုလ်များသည် မိသားစု စားဝတ်နေရေးအတွက် လှုပ်ရှားရုန်းကန်နေရသေး၏။ မိသားစုများနှင့် ပျော်ဖို့ ရွှင်ဖို့ အချိန်ကို ယူထားရသေး၏။ ဆရာတော်၊ သံဃာတော်များ မှာမူ ပစ္စည်းလေးပါးကို ဒကာ၊ ဒကာမများထံမှ မပင်မပန်းရရှိကြသော ကြောင့်လည်းကောင်း၊ ကာမဂုဏ်ငါးပါး အပျော်များနှင့် ကင်းနိုင်သမျှ ကင်းအောင် အားထုတ်တော်မူကြသောကြောင့်လည်းကောင်း သာသနာ တော် တည်တံ့ပြန့်ပွားရေး၌ ဆရာတော်၊ သံဃာတော်တို့၏ ဂုဏ်ကျေးဇူး ကား အံ့ဖွယ်အထူးရှိလှလေ၏။

သာသနာတော်နှင့်စပ်၍ ဆရာတော်၊ သံဃာတော်တို့၏ အမြင် သည် ကြည်လင်ပြတ်သား၏။ 'သာသနာတော်တည်သရွေ့ သူတော် ကောင်းတရားတွေ တည်မည်၊ သူတော်ကောင်းတရားတွေကို ကျင့်ကြံ၊ အားထုတ်သူ များမှသာလျှင် ကမ္ဘာကြီးငြိမ်းချမ်းမည်' ဟူသော ယုံကြည် ချက်ဖြင့် သာသနာ့တာဝန်များကို အားသွန်ခွန်စိုက် ဆောင်ရွက်တော်မူ ကြသည်။ ပရိယတ္တိသာသနာတော်ကြီး အင်အားချည့်နဲ့ မသွားရအောင် ပိဋကတ်တော်များကို အဖန်ဖန်၊ အထပ်ထပ် ကြည့်ရှုလေ့လာခြင်း၊ မှတ်သားခြင်း၊ တစ်ဆင့်ပြန်လည်၍ ပို့ချပေးခြင်း စသည်တို့ကို နိစ္စဓူဝ

ပြုနေကြ၏။ သမထ၊ ဝိပဿနာ ဘာဝနာတစ်မျိုးမျိုးကိုလည်း ပိဋကတ်တော်လာ ကျင့်နည်းမှန်အတိုင်း ကိုယ်တိုင်လည်း ကျင့်ကြံအားထုတ်၍ ဒကာ၊ ဒကာမများကိုလည်း အလျဉ်းသင့်သလို သာသနာတော်နှင့် စပ်လျဉ်း၍ သမ္မာဒိဋ္ဌိဉာဏ်အလင်းများ ဖြစ်ပွားစေရန် တရားဓမ္မများကို ဟောကြား ပြသတော်မူကြ၏။ ထို့ကြောင့် ဆရာတော်၊ သံဃာတော်တို့၏ ဂုဏ်တော်တို့ကို မြတ်မြတ်နိုးနိုးဖြင့် ပူဇော်ထိုက်လှပေသည်။

## အကြားအမြင်ရ ဘိုးတော်ကြီးများ

အကြားအမြင်ရ ဘိုးတော်ကြီးများနှင့်စပ်၍ ဤစကားမျိုးကို ပြောဆိုရန် ဝန်လေးလှသော်လည်း၊ သာသနာရေးကိစ္စ၌ ရှုပ်ရှုပ်ထွေးထွေး ဖြစ်မည်စိုး၍ အများအတွက် အသိရှင်းအောင် ဤဆောင်းပါးကို ရေးသားရခြင်းဖြစ်၏။ သီလ၊ သမာဓိ၊ ပညာ သိက္ခာသုံးရပ်ဖြင့် အခြေခံ အုတ်မြစ်တည်ထားသော မြတ်ဗုဒ္ဓ၏ သာသနာတော်ကြီးသည် ပင်ကိုယ် အားဖြင့် သန့်ရှင်းစင်ကြယ်၏။ အပြစ်ကင်း၏။ ရိုးရိုးသားသားဖြင့် ကျင့်ကြံ ပွားများသူတို့အား ချမ်းသာသုခကို ရစေနိုင်၏။ အမှန်ဆိုရသော် ဝိဇ္ဇာ လမ်းနှင့် မဂ်လမ်း၊ ဖိုလ်လမ်းသည် 'ပြဒါးတစ်လမ်း၊ သံတစ်လမ်း'' ပမာ ရှိနေ၏။ မတူညီသော လမ်းနှစ်သွယ်ကို ပေါင်းစပ်ကြမည်ဆိုလျှင် ထိုလမ်းစဉ်တို့သည် ပို၍ ရှုပ်ထွေးဖွယ်ရာသာ ဖြစ်နိုင်၏။ ထို့ကြောင့် ဝိဇ္ဇာလမ်းကို လိုက်သော ဘိုးတော်တို့၏ ရည်ရွယ်ချက်နှင့် မဂ်လမ်း၊ ဖိုလ်လမ်းကို လိုက်သော ရဟန်းသံဃာတော်တို့၏ ရည်ရွယ်ချက်များသည် လုံးဝ မတူညီနိုင်ကြောင်း ဗုဒ္ဓဘာသာဝင်များကို သိစေချင်လှ၏။

လွန်ခဲ့သော တစ်လခန့်က အမေရိကန်နိုင်ငံ၌ အကြားအမြင်ရ သည်ဆိုကြသော ဘိုးတော်နှင့် ဘိုးတော်မ အချို့ကို တွေ့လိုက်ရ၏။

သူတို့သည် သာသနာပြုလက်မှတ်များကို ရရှိထားကြပြီး၊ ကမ္ဘာလှည့်၍ သာသနာပြုနေကြကြောင်း တည်တည်တံ့တံ့ ခပ်ခန့်ခန့် စကားမျိုးကို ပြောဆိုနေကြ၏။ ကြားရသူတို့အတွက် အထင်ကြီးစရာပင်။ စာရေးသူမှာတော့ ထိုကြားရသောအခိုက်အတန့်မှာပင် အတွေးနယ်ချဲ့ခဲ့မိ၏။ သူတို့ကိုယ်သူတို့ သာသနာပြုပုဂ္ဂိုလ်ကြီးတွေရယ်လို့ အထင်ရောက်အောင် အများရှေ့မှာ ပြောရဲတာ အံ့သြစရာပဲ။

စကားကြွယ်၍ စကားကို ခပ်ခန့်ခန့် ပြောဆိုတတ်ကြသော အကြားအမြင်ရ ဘိုးတော်၊ ဘိုးတော်မများ၏ ကိုယ်ရေးကိုယ်တာ ကိစ္စကို စာရေးသူအနေနှင့် ဘာမျှ မပြောလိုပေ။ သို့သော် သာသနာနယ်ပယ်တွင်းသို့ ဝင်၍ အင်းချ၊ အင်းပြင်၊ ငှက်ပျောပွဲ၊ အုန်းပွဲတင်၍ ဖယောင်းတိုင်ထွန်းညှိသော အကြားအမြင်ရ ဘိုးတော်များ၏ အန္တရာယ်ကား အနာဂတ်သာသနာတော်အတွက် ရင်လေးစရာဖြစ်ရ၏။ သံဃာတော်အချို့သည်ပင် ထိုထိုသော အမှုကိစ္စမျိုးကို ပါဝင်ပြုလုပ်နေကြပြီဖြစ်၍ သာသနာတော်၌ အုတ်အရောရော၊ ကျောက်အရောရော ဖြစ်နေသည်မှာ သေချာနေပြီဖြစ်၏။ အင်းပြင်၊ ခါတ်ချနိုင်သော ဘိုးတော်တို့၏ စွမ်းပကားသည် ပိဋကတ်တော်လာ သိက္ခာသုံးပါးကို ကျင့်ကြံပွားများနေကြသော ရဟန်း၊ သံဃာတော်တို့၏ ဂုဏ်တော်စွမ်းပကားထက် အကျိုးပိုပေးသည်ဟု လူအများစုက ထင်မြင်ယူဆလာခဲ့သော်တစ်နေ့ဝယ် သာသနာ့ဝန်ထမ်း ရဟန်းတော်များ၏ ရှေ့ရေးသည် မည်သို့ရှိလေမည်နည်း။

## သာသနာတော်ကို လဋ္ဌီစောင့်

မြတ်ဗုဒ္ဓ၏ တရားဓမ္မတို့သည် သိမ်မွေ့၏၊ လေးနက်၏၊ ရိုးသား၏၊ ပွင့်လင်း၏၊ အသိဉာဏ်ကို လင်းစေနိုင်၏။ ပိဋကတ်တော်မှ

လာသော ကျင့်နည်းမှန်အတိုင်း ကျင့်ကြံ၊ ပွားများနေသူ ရှိနေသမျှ ကာလပတ်လုံး သာသနာတော်သည် တည်နေမည်သာဖြစ်၏။ မဟာပရိနိဗ္ဗာနသုတ်၌ မြတ်စွာဘုရား အတိအလင်း ဟောကြားထားသည်မှာ ''ဗောဓိပက္ခိယတရား သုံးဆယ့်ခုနစ်ပါးကို ရဟန်းရှင်လူများ ကျင့်ကြံပွားများနေသမျှကာလပတ်လုံး ငါဘုရား၏ သာသနာတော်သည် တည်နေမည်သာဖြစ်၏''ဟူသော မြတ်စွာဘုရား၏ စကားတော်သည် ရှင်း၏၊ ပြတ်သား၏၊ ဘာမျှ ကွေ့ဝိုက်၍ ပြောဆိုထားခြင်းမရှိ။

သာသနာတော်တည်တံ့၊ ထွန်းကား၊ ပြန့်ပွားရေးသည် ရဟန်း၊ ရှင်၊ လူ၊ ပြည်သူအများ၏ သာသနာတော်နှင့် စပ်သော အသိဉာဏ်များ ရှင်းလင်းပြတ်သားမှ ဖြစ်နိုင်၏။ ဥပမာ သာသနာတော်တွင်း၌ ဝင်ရောက်၍ အုန်းပွဲ၊ ငှက်ပျောပွဲတင်ခြင်းစသော အမှုတို့ကို ပြုလုပ်နေပြီး၊ ကိုယ်ကျိုးအတွက် အမြတ်ထုတ်နေသူကို သာသနာပြုပုဂ္ဂိုလ်ဟု မခေါ်ဆိုနိုင်ကြောင်း ပြည်သူအများက သိထားမှဖြစ်မည်။ သီလ၊ သမာဓိ၊ ပညာ သိက္ခာသုံးပါးကို ကိုယ်တိုင်ကလည်း ကျင့်ကြံပွားများ အားထုတ်၊ သူတစ်ပါးတို့အားလည်း အလားတူပြုလုပ်နိုင်ရန် ဟောကြားပြသနေသူက (သူ့ကိုယ်သူ သာသနာပြုပုဂ္ဂိုလ်ဟု ပြောဆိုခြင်းမရှိသော်လည်း) သာသနာပြုပုဂ္ဂိုလ်ဟု ခေါ်ဆိုထိုက်ကြောင်း သိထားရပေမည်။ ကျမ်းဂန်များ၌ သိက္ခာသုံးပါးကို ကျင့်ကြံပွားများ အားထုတ်နေသူကို လဇ္ဇီပုဂ္ဂိုလ်ဟု ခေါ်ဆိုကြလေ၏။ ထိုလဇ္ဇီရဟန်းကောင်းတို့သည်သာ အနာဂတ် သာသနာတော်ကို စောင့်ရှောက်ကြမည်ဖြစ်ကြောင်း ယုံမှားမရှိ သတိပြုသင့်ပေသည်။

## ခွဲခြား၍ သိကြပါ

နှစ်ဆယ်ရာစု သာသနာတော်၏ အခြေအနေတို့သည် ရှုပ်ထွေး

နေဆဲဖြစ်၏။ ရှုပ်ထွေးနေသည်ဟု ဆိုရာ၌ ပိဋကတ်တော်များ ရှုပ်ရှုပ်ထွေးထွေး ဖြစ်နေသည်ဟု မဆိုလို။ ရိုးရာ၊ ထုံးတမ်းစဉ်လာများ သာသနာတော်တွင်း၌ ဝင်ရောက်၍ ရောယှက်ရှုပ်ထွေးနေခြင်းမျိုးကို ဆိုလိုသည်။ အတုနှင့်အစစ် ရောနှောရှုပ်ထွေးနေခြင်းမျိုးကိုလည်း ဆိုလိုသည်။ သာသနာ့ဝန်ထမ်းနှင့် သာသနာ့ဝန်စီး၊ သာသနာ့အကျိုးတော်ဆောင်နှင့် သာသနာ့ အကျိုးတော်စီး၊ သာသနာ့အကျိုးပြုဒါယကာနှင့် သာသနာ့အကျိုးတု ဒါယကာ စသည်ဖြင့် တူမယောင်ယောင်နှင့် ကွဲပြားခြားနားနေသော ဤဝိဝါဒ စကားစုတို့ကို သာသနာတော်တွင်း၌ ခွဲခြားသိရန် ခက်ခဲလှ၏။ သာသနာတော်ကို တကယ်တမ်း မြတ်နိုး၊ ကြည်ညိုသယောင်ယောင်နှင့် သာသနာတော်တွင်းသို့ ဝင်၍ ကိုယ်ကျိုးစီးပွားရှာနေသူတွေကလည်း ဒုနှင့်ဒေး။ အကယ်၍သာ သိကြားမင်းသည် မြတ်စွာဘုရား၏ သာသနာတော်ကြီးကို တကယ်တမ်းစောင့်ရှောက်လျက် သာသနာပြုနေသူမှန်ခဲ့လျှင် သာသနာတော်ကို အမှီပြုကာ ကိုယ်ကျိုးစီးပွားရှာနေကြသော ဘိုးတော်များအပါအဝင် ရဟန်း၊ ရှင်၊ လူ အဘယ်သို့သော ပုဂ္ဂိုလ်မျိုးကိုမဆို သတိပေး၍ တားမြစ်ရာ၏။ သာသနာတော်အတွက် ရည်ရွယ်ချက်ကောင်းကောင်း၊ စိတ်၊ စေတနာကောင်းကောင်းဖြင့် ဆောင်ရွက်နေသူတို့ကို ချီးမြှောက်စောင့်ရှောက်ရာ၏။ ထို့ကြောင့် သာသနာတော်တည်တံ့၊ ပြန့်ပွားရေးအတွက် သိကြား၊ ဗြဟ္မာတို့ကိုချည်း အားကိုးနေ၍ မဖြစ်ပြီ။ အကြားအမြင်ရ ဘိုးတော်များကိုချည်း ယုံစားနေ၍ မဖြစ်ပြီ၊ ဤသို့ဆိုလျှင် သာသနာတော်သန့်ရှင်း၊ တည်တံ့ပြန့်ပွားရေးအတွက် မည်သူတို့ကို အားကိုးကြရမည်နည်း။

ဗုဒ္ဓအလိုတော်ကျ ရေးရမည်ဆိုလျှင် သာသနာတော်ကြီးကို မြတ်နိုးကြည်ညိုကြသော ရဟန်း၊ ရှင်၊ လူ၊ ပြည်သူ၊ ပြည်သားအားလုံးတို့သည် ညီညီညွတ်ညွတ်စုပေါင်း၍ ကိုယ်စီကိုယ်စီ အကျင့်သိက္ခာများနှင့်

ပြည့်စုံသည်ထက် ပြည့်စုံအောင် အားထုတ်ကြရပေမည်။

"အတ္တာဟိ အတ္တနော နာထော–ကိုယ့်ကိုယ်ကို အားကိုးလျက် သူတော်ကောင်းတရားများ ကိုယ့်သန္တာန်၌ တည်အောင် အားထုတ်ကြရမည်"ဟူသော ဗုဒ္ဓစကားတော်ကို အမြဲတမ်း စာရေးသူတို့တစ်တွေ သတိရသင့်ပေသည်။ ကိုယ်တိုင်ကျင့်၍ ကိုယ်တိုင်ပါဝင်စောင့်ရှောက်ပေးခြင်းဖြင့် အနှိုင်းမဲ့မြတ်ဗုဒ္ဓ၏ သာသနာတော်ကြီးကို အတူတကွ စောင့်ရှောက်ခြင်းမျိုးက ပို၍အကျိုးသက်ရောက်နိုင်ပါသည်။

နိဂုံးချုပ်အနေအားဖြင့် မြတ်ဗုဒ္ဓ၏ သာသနာတော်ကြီးကို လဇ္ဇီရဟန်းတော်များကသာ ဦးဆောင်၍ တည်တံ့ပြန့်ပွားအောင် ဆောင်ရွက်နေသည် မှန်သော်လည်း ဆရာ(သံဃာ)နှင့် ဒကာ လက်တွဲ၍ သာသနာတော်အတွက် ရိုးရိုးသားသားဖြင့် ဆောင်ရွက်နိုင်ကြဖို့က ပို၍ အရေးကြီးပါသည်။ ဆရာ၊ ဒကာ နှစ်ဦးနှစ်ဖက်က သက်ဆိုင်ရာ ကိုယ်ကျင့်သီလတို့ကို စံထားလျက် သံဃာတော်များက ပရိယတ်၊ ပဋိပတ်တို့ကို အားသွန်ခွန်စိုက် ကျင့်ကြံပွားများ အားထုတ်ကြ၍ ဒကာ၊ ဒကာမများကလည်း ပစ္စည်းလေးပါးတို့ကို စနစ်တကျ (အစစ်၊ အတု တို့ကို ခွဲခြားသိလျက်) သံဃာတော်တို့အား ကူညီ၊ ပံ့ပိုး၊ စောင့်ရှောက်၊ ချီးမြှောက်ကြရန် လိုအပ်ပါသည်။ သို့မှသာ ဝိဇ္ဇာလမ်းသွားပုဂ္ဂိုလ်များနှင့် မဂ်လမ်း၊ ဖိုလ်လမ်း၊ နိဗ္ဗာန်လမ်းသွားပုဂ္ဂိုလ်များတို့ သီးသီးသန့်သန့် ပြန်လည်ဖြစ်ရှိနိုင်ပြီး၊ အနှိုင်းမဲ့ မြတ်ဗုဒ္ဓ၏ သာသနာတော်ကြီးသည် ကမ္ဘာအနှံ့ ပျံ့နှံ့လျက် တက်သစ်စ နေဝန်း၊ ထွန်းသစ်စ လပြည့်ဝန်းကြီးပမာ ကြည်သာချမ်းမြေ့ ရှိလိမ့်မည်သာတည်း။



# သည်စည်းကမ်းနှင့် သည်ခရီးလမ်း

ဤလူ့ဘုံ၊ ဤလောက၌ ဖြစ်လေ့ဖြစ်ထရှိသော ဓမ္မတာသဘာဝ တစ်ခုမှာ လူတစ်ယောက်(သို့မဟုတ်) လူတစ်စုသည် အဖွဲ့အစည်းတစ်ခုကို တည်ထောင်တော့မည်ဆိုလျှင် ထိုအဖွဲ့အစည်းအတွက် အရေးကြီးဆုံးဖြစ်သော ကိစ္စတစ်ခုကို ပထမဦးစားပေးအနေဖြင့် ကြိုတင်စဉ်းစားထားရ၏။

ထိုအရေးကြီးသောကိစ္စ ဟူသည် တခြားတော့မဟုတ်၊ စည်းမျဉ်း စည်းကမ်းပင်ဖြစ်၏။ စည်းမျဉ်းစည်းကမ်းမရှိသော အဖွဲ့အစည်း (သို့မဟုတ်) လူမျိုးစုသည် ဘယ်သောအခါမှ တိုးတက်ကြီးပွားလိမ့်မည်မဟုတ်ပေ။

အကယ်၍သာ စည်းကမ်းနှင့်လူမျိုး၊ လူမျိုးနှင့် တိုင်းပြည်သည် အညမညသဘောတရားအရ အချင်းချင်း ဆက်စပ်နေသည်ဟု ဆိုနိုင်ပါလျှင် စည်းကမ်းသည် လူမျိုး၏ အသက်၊ လူမျိုးသည် တိုင်းပြည်၏ နှလုံးသားဟုပင် ဆိုသင့်လှပေတော့သည်။

လောကသုံးပါး၌ အတုမရှိ၊ အတူမရှိ၊ အနှိုင်းမရှိဖြစ်တော်မူသော မြတ်စွာဘုရားသည် သာသနာ့အဆောက်အအုံကြီးကို တည်ဆောက်သောအခါ ဝိနည်း၊ စည်းမျဉ်း၊ စည်းကမ်းများကို မူထား၍ တည်ဆောက်ခဲ့၏။

ထိုသို့ တည်ဆောက်ရာ၌လည်း လိုက်နာသူများ ရှိရှိသေသေ၊ လေးလေးစားစားဖြင့် လိုက်နာနိုင်အောင် ဝိနည်းပညတ်တော် ဆယ်ပါးဖြင့် ရနိုင်သောအကျိုးတရားနှင့် ဖြစ်ပေါ်လာနိုင်သော အကျိုးဆက်တို့ကို ဟောပြတော်မူ၏။ သို့သော် ထိုဝိနည်းကို တရားသေသဘောဖြင့် ရေးဆွဲထားခြင်းမျိုးတော့ မဟုတ်ပေ။

အဘယ့်ကြောင့်ဆိုသော် 'လှေနံဓားထစ်' သဘောမျိုးဖြင့် တရားသေရေးဆွဲထားခဲ့မည်ဆိုလျှင် ရံဖန်ရံခါ လိုက်နာရန် အခက်အခဲများနှင့် ကြုံတွေ့ရပြီး၊ ဖြေရှင်းရန်လည်း ခက်ခဲနေတတ်ပါသည်။ ထိုသဘော၊ ထိုသဘာဝကို ကောင်းစွာ သိမြင်တော်မူသော မြတ်စွာဘုရားသည် အချို့အချို့သော ဝိနည်းသိက္ခာပုဒ်တော်တို့၌ အနုပညတ်တော်များကို ထည့်သွင်း၍ ပညတ်တော်မူခဲ့ရ၏။

အနုပညတ်ဆိုသည်မှာ သိက္ခာပုဒ်တော်များကို ခြွင်းချက်ထား၍ ပညတ်တော်မူခြင်းကို ဆိုလိုသည်။ ဥပမာ ရဟန်းတော်များသည် မိမိ၌ ထင်ရှားမရှိပါဘဲလျက် ဈာန်၊ မဂ်၊ ဖိုလ် တရားထူးများကို မိမိ၌ ရှိနေသယောင် လူသာမညတို့အား မပြောကြားရ၊ ယုတ်မာသော အလိုဆိုးဖြင့် လူအထင်ကြီးအောင် ပြောကြားတာမျိုးဖြစ်ခဲ့လျှင် ပါရာဇိက အာပတ်သင့်၏။

သို့သော် တစ်ခါတစ်ရံ ဖြစ်တတ်သော သဘောမှာ တကယ်တမ်း ရဟန်းတရားများကို အားထုတ်နေသော ရဟန်းတော်များသည် မိမိသန္တာန်၌ ဖြစ်ပေါ်လာသော တရားအတွေ့ထူးများကို မဂ်၊ ဖိုလ်

တရားထူးနှင့် အထင်မှားပြီး ငါ မဂ်၊ ဖိုလ်တရားများ ရနေပြီဟု ထင်မှား မိတတ်၏။ သူတစ်ပါးတို့အားလည်း ပြောဆိုမိတတ်၏။ ထိုသို့ ပြောဆိုမိခြင်းမျိုးသည် ယုတ်မာသော အလိုဆိုးဖြင့် ပြောဆိုခြင်းမျိုးမဟုတ်၍ ပါရာဇိက အာပတ်မသင့်နိုင်။ ဤကဲ့သို့ ခြွင်းချက်ဖြင့် ပညတ်ထားခြင်းကို အနုပညတ်ဟု ခေါ်သည်။

သိက္ခာပုဒ်တော်အချို့၌ အနုပညတ်များကို ထည့်သွင်း၍ ပညတ်ထားခြင်းဖြင့် ရဟန်းတော်တို့အပေါ်၌ မြတ်စွာဘုရား၏ ကြီးမားသော မဟာကရုဏာတော်ကို အတိုင်းအတာတစ်ခုဖြင့် သိရခြင်းပင် ဖြစ်လေသည်။

အာဂါရိက–အိမ်ရာတည်ထောင်သော လူဒါယကာ၊ ဒါယိကာမတို့အတွက်လည်း မြတ်စွာဘုရားသည် လူနှင့်ဆိုင်သော လူ့ဝိနည်း၊ စည်းမျဉ်း၊ စည်းကမ်းများကို အတိုင်းအတာတစ်ခုအနေဖြင့် ဟောကြားတော်မူခဲ့၏။ ထိုစည်းကမ်းဟူသည်မှာ ကံငါးပါး(သို့မဟုတ်)ငါးပါးသီလပင် ဖြစ်၏။

သဒ္ဓါတရားနည်းပါးသော လူအချို့သည် ထိုကံငါးပါးကိုပင် ဈေးဆစ်ချင်ကြသေး၏။ 'လေးခုလောက်ဆို တော်ရောပေါ့၊ အကယ်၍သာ မြတ်စွာဘုရားသည် ငါးခုမြောက်ဖြစ်တဲ့ သုရာမေရယသိက္ခာပုဒ်ကို မထည့်ခဲ့လျှင် လူ့ဝိနည်းသည် ခေတ်နှင့် လိုက်လျောညီထွေရှိမှာပဲ၊ ခုတော့' စသည် ... စသည်ဖြင့်။

အမှန်ဆိုရသော် လူတို့၏ သီလသည် ရဟန်းတော်တို့၏ သီလနှင့်တော့ မတူတတ်ချေ။ ကိုယ်ကျင့်ချင်မှ ကျင့်သုံးရသော သိက္ခာပုဒ်မျိုး ဖြစ်သည်။ ရဟန်းတော်များမှာမူ ဝိနည်းသိက္ခာပုဒ်များကို ရဟန်းဖြစ်လာသည့်နေ့မှစ၍ မကျင့်ချင်လည်းကျင့်၊ ကျင့်ချင်လည်း ကျင့်ရပါတော့၏။

သို့သော် မြတ်စွာဘုရားသည် မဟာကရုဏာတော်ဖြင့်

အချင်းချင်း ချစ်ခင်၊ ညီညွတ်၊ မျှတရေးတို့အတွက်လည်းကောင်း၊ ပစ္စုပ္ပန်၊ တမလွန်ချမ်းသာရေးတို့အတွက်လည်းကောင်း ဤငါးပါးသီလကို ခါးဝတ်ပုဆိုးကဲ့သို့ မြဲကြရန် ဟောကြားတော်မူခဲ့၏။

လူ့တန်ဖိုးသည် သီလ၌တည်၍ ဘဝတန်ဖိုးသည် လူ၌တည်၏။ ကိုယ်ကျင့်သီလသိက္ခာပုဒ်များနှင့်အညီ လူပီပီနေတတ်မှ လူ့တန်ဖိုးတက်မည်။ ဘဝတန်ဖိုးကို နားလည်မှ ဘဝဆိုတာ ကြီးပွားချမ်းသာနိုင်သည်။

ရေတိုချမ်းသာခြင်းမျိုးထက်၊ ရေရှည်ချမ်းသာခြင်းမျိုးကို ရရှိနိုင်အောင် ကိုယ်စီကိုယ်စီ ကိုယ်ကျင့်သီလတို့ကို စောင့်ထိန်းကြခြင်းဖြင့် ဘုရားစကားကို လေးလေးစားစား လိုက်နာသင့်လှပေသည်။

## စည်းကမ်းနှင့် ကျောင်းတိုက်တည်

လောက၌ ဖြစ်လေ့ဖြစ်ထရှိသော နိယာမတစ်ခုမှာ သီလရှိသူကို သီလမရှိသူက ဘဝင်မကျချင်။ စည်းကမ်းရှိသူကို စည်းကမ်းမရှိသူက သဘောမကျ။ ကြိုးကြိုးစားစား အားထုတ်နေထိုင်သူကို ပျင်းပျင်းရိရိ နေလေ့ရှိသူက အထင်မကြီး။ အောင်မြင်မှုရှိသူကို မအောင်မြင်သူက မနာလိုနိုင်။ ဤနည်းဖြင့် ဆန့်ကျင်ဘက်နှစ်ခုတို့ အားပြိုင်မှုမျိုး ဖြစ်ကြရပေသည်။

သို့သော် သီလရှိသူ၊ စည်းကမ်းရှိသူ၊ ကြိုးစားသူနှင့် အောင်မြင်မှုရှိသူတို့၌ မနာလိုမှု၊ ဝန်တိုမှုလို့ခေါ်တဲ့ ဣဿာ၊ မစ္ဆရိယတရားဆိုးတို့သည် အဖြစ်နည်းပြီး၊ မအောင်မြင်၊ မကြိုးစားသူ၌သာ ထိုတရားဆိုးများ ပို၍ များတတ်ပါသည်။

ထိုအခါ ထိုပုဂ္ဂိုလ်သည် တစ်ပါးသူအပေါ်၌ ရန်ငြိုးဖွဲ့၍ တိုက်ခိုက်ရန် နည်းလမ်းကို စတင်၍ ရှာဖွေတော့၏။ ထို့ကြောင့် ဣဿာ၊

မစ္ဆရိယတရားဆိုးသည် မိမိ၊ သူတစ်ပါးတို့အား အကျိုးမဲ့ဖြစ်အောင် အစွန်းရောက်ဝါဒသို့ မရောက်ရောက်အောင် လှုံ့ဆော်ပေးနိုင်၏။

အစွန်းရောက်ဝါဒသည် သတ္တဝါအားလုံးတို့အား အကျိုးမဲ့ကို ဖြစ်စေနိုင်သောကြောင့် မြတ်စွာဘုရားသည် မဇ္ဈိမပဋိပဒါ အလယ်အလတ်လမ်းစဉ်ကို ဟောကြားတော်မူခဲ့၏။

မှန်ပေသည်။ ဤမဇ္ဈိမပဋိပဒါလမ်းစဉ်သည် သတ္တဝါအားလုံးအတွက် ပစ္စုပ္ပန်၊ သံသရာကောင်းကျိုး ချမ်းသာကို ဖြစ်စေရန် အကောင်းဆုံးလမ်းစဉ်(သို့မဟုတ်) အားလုံးအတွက် အသင့်တော်ဆုံး စည်းမျဉ်းစည်းကမ်းဟုပင် ဆိုသင့်လှပေသည်။

ကျေးဇူးတော်ရှင် ပဏ္ဍိတာရာမ ဆရာတော်ဘုရားကြီးသည် 'မျှတခြင်းသည် ညီညွတ်ခြင်း၏ အကြောင်းဖြစ်သည်' ဟု ယုံကြည်တော်မူသည်။ ထို့ကြောင့်ပင် ပစ္စည်းလာဘ်လာဘများကို ခွဲခြမ်းဝေဖန်ပေးမှုက အစ တာဝန်ကိုယ်စီကို အသီးသီး ခွဲခြမ်းဝေဖန်ပေးမှုအထိ မျှမျှတတရှိရအောင် ကြောင့်ကြစိုက်တော်မူသည်။

မျှတမှ ညီညွတ်မည်။ ညီညွတ်မှ ချမ်းသာမည်။

ဤအဆိုပြုချက်သည် မှန်ကန်နေသည်ဟုဆိုလျှင် အဖွဲ့အစည်းတိုင်း၌ အချင်းချင်း အမြဲတမ်း မျှတညီညွတ် ချမ်းသာရေးတို့အတွက် တစ်ဖက်သတ် နိုင်ထက်စီးနင်း သဘောမျိုးဖြင့် သူ့စည်း၊ ကိုယ့်စည်းများကို ကျူးကျော်မှုမျိုး မဖြစ်ကြရလေအောင် စည်းမျဉ်း၊ စည်းကမ်း တစ်မျိုးမျိုးကို ထားကို ထားရပေလိမ့်မည်။

စာရေးသူ၏ဘဝ၌ စာရေးသူ အရိပ်ခိုခဲ့ဖူးသမျှ ကျေးဇူးတော်ရှင် ဆရာတော်ကြီးများထဲတွင် ဗဟန်း၊ သံလွင်လမ်းရှိ ရွှေတောင်ကုန်း သာသနာ့ရိပ်သာ၌ သီတင်းသုံးနေတော်မူသော ပဏ္ဍိတာရာမ ဆရာတော် ဘုရားကြီးသည် စည်းမျဉ်းစည်းကမ်းနှင့် ပတ်သက်လာလျှင် စံနမူနာ

ထားရလောက်အောင် လှူသိမျှားလှပေသည်။

ဆရာတော်ဘုရားကြီးသည် တပည့်များအပေါ်၌ မေတ္တာဖြင့် စောင့်ရှောက်သော ဆရာတော်လည်း ဖြစ်သည်။ သို့သော် စည်းမျဉ်း၊ စည်းကမ်းနှင့် ပတ်သက်လာလျှင် တစ်ပြားသားမျှ အလျှော့မပေးသော ဆရာတော်မျိုး ဖြစ်သည်။ သေးသေးဖွဲဖွဲ အောက်ခြေသိမ်းမှအစ၊ အရာရာ တိုင်း၌ စည်းကမ်းကြီးလှ၏။ ဆရာတော်ဘုရားကြီးသည် တပည့်များ အား ဤသို့ မကြာခဏ ဆုံးမဩဝါဒပေးလေ့ရှိ၏။

''စည်းမျဉ်းစည်းကမ်းကို ကိုယ်တိုင်လည်း လိုက်နာ၊ သူတစ်ပါး ကိုလည်း တိတိကျကျလိုက်နာကျင့်သုံးစေလိုတဲ့ ပုဂ္ဂိုလ်မျိုးဆိုတော့ ပြောရဲ ဆိုရဲတဲ့ သတ္တိမျိုး ရှိရမယ်။ ဒါလေးကတော့ အသေးအဖွဲကလေးပဲဟု စည်းမျဉ်းစည်းကမ်းကို အလျှော့မပေးရဘူး''ဟု မိန့်တော်မူ၏။

ဆရာတော်ဘုရားကြီးသည် စည်းမရှိ ကမ်းမရှိ တံတွေးထွေး ခြင်း၊ စည်းကမ်းမဲ့ တွေ့ကရာအမှိုက်ပစ်ခြင်း၊ ရေချိုးခန်း၊ အိမ်သာများကို မသန့်ရှင်းဘဲထားခြင်း၊ ကျောင်းအဆောက်အအုံများ၌ ဖုန်တွေ၊ အမှိုက် တွေ ပေတေနေခြင်းမျိုးကိုတွေ့လျှင် ချက်ချင်းအရေးယူပြီး သက်ဆိုင်သူ များကို နောက် ဒါမျိုးမပြုလုပ်ရန် ဆုံးမဩဝါဒပေးတော်မူ၏။

ပဏ္ဍိတာရာမ ဆရာတော်ဘုရားကြီး၏ မေတ္တာဓာတ်ပါသော ဆုံးမဩဝါဒနှင့် စနစ်ကျသော စည်းမျဉ်း၊ စည်းကမ်းတို့သည် အများ အပေါ်၌ အကျိုးသက်ရောက်မှု များစွာရှိကြောင်း စာရေးသူတို့ ကိုယ် တွေ့ပင် ဖြစ်၏။

ဒါနှင့် ပတ်သက်၍ စာရေးသူသည် မဟာစည်သာသနာ့ရိပ်သာ ကြီး၌ ဩဝါဒါစရိယဆရာတော် (ယခု ပဏ္ဍိတာရာမ ဆရာတော်)၏ ခြေတော်ရင်း၌ နေထိုင်ခဲ့စဉ်အခါက နိုင်ငံခြားသား ယောဂီတစ်ဦး၏ ထင်မြင်သုံးသပ်ချက်ကို သတိရမိပါသည်။ ''ရန်ကုန်မြို့မှာ ဒီရိပ်သာ

ကြီးဟာ သိပ်သန့်ရှင်းတာပဲ''ဟု ဆိုခဲ့ဖူး၏။

ခေတ်အမြင်နှင့် ကျန်းမာရေးအမြင်ရှိသော ပဏ္ဍိတာရာမ ဆရာတော်ဘုရားကြီးသည် ပဏ္ဍိတာရာမ၌ သန့်ရှင်းမှု ရှိမရှိ အမြဲတမ်း ကိုယ်တိုင်ကြည့်ရှု စစ်ဆေးတော်မူ၏။ ဤသို့သော အကြောင်းများကြောင့် တပည့်သံဃာတော်များ၊ သိက္ခာရှင်များနှင့် ယောဂီအားလုံးတို့သည် ဆရာတော်ဘုရားကြီးအား 'စည်းကမ်းကြီးသော ဆရာတော်ကြီး'ဟု ပြောမဆုံးအောင်ပင် ရှိတော့သည်။

## စည်းကမ်းရှိဖို့က ပထမ

ပဏ္ဍိတာရာမ ဆရာတော်ဘုရားကြီး၌ အမြော်အမြင်ကြီးမား ခြင်း၊ သာသနာစိတ်ရှိခြင်း၊ တပည့်များကို စောင့်ရှောက်ခြင်း၊ သာသနာ တော်အတွက် စိတ်ရှည်ခြင်း၊ စည်းကမ်းကြီးခြင်း စသော ဂုဏ်အမျိုးမျိုး ရှိပါ၏။

သို့သော် စည်းကမ်းကြီးခြင်းဂုဏ်သည် အခြားသော ဂုဏ်တို့ ထက် ပို၍ ပေါ်လွင်ထင်ရှားနေသည်ဟု စာရေးသူ ထင်မြင်ယူဆမိပါသည်။

ကျောင်းတိုက်စည်းမျဉ်း စည်းကမ်း အနေအထိုင်များနှင့် ပတ် သက်၍ နာမည်ကြီးလှသော တောင်မြို့ မဟာဂန္ဓာရုံဆရာတော်ဘုရား ကြီးသည် ကျောင်းတိုက်အတွက် စည်းမျဉ်းဆယ်ချက်ကို ထုတ်ပြန်ရာ၌ 'စိတ်ကောင်းရှိဖို့က ပထမ'ဟု အစပျိုးကာ စည်းမျဉ်းများကို ထုတ်ပြန် ထားခဲ့ပါ၏။

အကယ်၍သာ ပဏ္ဍိတာရာမ ဆရာတော်ဘုရားကြီးသည် ရိပ်သာအတွက် အလားတူ စည်းမျဉ်းဆယ်ချက်ကို ထုတ်ပြန်ခဲ့မည်ဆို လျှင် 'စည်းကမ်းရှိဖို့က ပထမ'ဟု အစပျိုးကာ စည်းမျဉ်းများကို

ထုတ်ပြန်လေမလားမသိဟု စာရေးသူ တွေးထင်မိ၏။ ဤမျှလောက်ထိ ပဏ္ဍိတာရာမ ဆရာတော်ဘုရားကြီးသည် စည်းမျဉ်း၊ စည်းကမ်းနှင့် ပတ်သက်၍ နာမည်ကြီးတော်မူလှသည်။

ဆရာတော်ဘုရားကြီးသည် စည်းမျဉ်း၊ စည်းကမ်းများကို စာတွေ့၊ လက်တွေ့ အကောင်အထည်ဖော်နိုင်ရန် မူတစ်ခုထားရှိသည်ကို တွေ့ရှိရ၏။ ဆရာတော်ဘုရားကြီးသည် စည်းမျဉ်း စည်းကမ်းများနှင့် ပတ်သက်လာလျှင် ဘယ်သောအခါမှ ပြောရန်၊ သတိပေးရန်၊ ဆုံးမရန် အားနာလိမ့်မည်မဟုတ်ပေ။

ဆရာလုပ်မည့်သူများကိုလည်း ဆရာပီပီ ရဲရဲရင့်ရင့် ကိစ္စရပ်များကို ဆောင်ရွက်နိုင်ရန် ဤသို့ လင်္ကာရွတ်၍ ဆုံးမတော်မူ၏။ ''ရှေးရှုမေတ္တာ၊ ကရုဏာဖြင့်၊ နာနာကျင်ကျင်၊ အပြစ်မြင်တိုင်း၊ ဝမ်းတွင်း မသို၊ ဟုတ်တိုင်းဆို၍၊ ကျိုးလိုစိတ်ဖြင့်၊ ဆုံးမတတ်သူ ဆရာဟူ၏'' လို့ ဆိုတဲ့အတိုင်း ''ဆရာဆိုတာ တပည့်များကို အကျိုးလိုလားသောစိတ်ဖြင့် ဆုံးမရဲရမယ်'' ဟု မိန့်တော်မူ၏။

ဆရာတော်ဘုရားကြီးသည် တရားစစ်ဆေးရာ၌လည်း လောကီ ဆိုင်ရာ စည်းမျဉ်း စည်းကမ်းများကို ခပ်တင်းတင်းဖြင့်ပင် ကိုင်တွယ် တော်မူ၏။ တစ်ခါက နိုင်ငံခြားသား ယောဂီတစ်ယောက်သည် စာရေးသူအား ဤသို့ ပြောကြားဖူး၏။

''တပည့်တော် ဆရာတော်ကြီးထံမှာ တရားစစ်ခံရမှာ သိပ် ကြောက်တယ်''၊ ''ဘယ်လိုကြောက်တာလဲ'' လို့ စာရေးသူက ပြန်မေး သောအခါ ''ဘာ့ကြောင့် ကြောက်တယ်ဆိုတာကိုတော့ အတိအကျ မသိဘူး၊ ကြောက်တာကတော့ အမှန်ပဲ၊ တပည့်တော် တခြားဆရာတွေကို ဒီလောက်ထိ မကြောက်ခဲ့ဖူးဘူး၊ ဒါပေမယ့်လည်း တပည့်တော် ဆရာ တော်ကြီးကို တအားလေးစားတယ်၊ သူက ယောဂီတွေကို တရားသိပ်ရ

စေချင်တာပဲ''တဲ့။

စည်းကမ်းကြီး၍ ဆရာကို ကြောက်သော်လည်း ဆရာတော်ကြီး၏ မေတ္တာ၊ စေတနာတို့ကို နားလည်ကြ၍ ''ဆရာတော်ကြီးထံမှာ တရားစစ်ခံရတာဟာ တရားတက်မြန်တယ်''ဟု ဆိုသူတို့ကလည်း ဆိုကြပြန်၏။ မြန်မာစကားစု၌ 'ချစ်၊ ကြောက်၊ ရိုသေ'ဟူသည် ဤသို့ပင် ဖြစ်လိမ့်မည်ဟု စာရေးသူ တွေးထင်မိတော့၏။

## သည်စည်းကမ်းနှင့် သည်ခရီးလမ်း

ပဏ္ဍိတာရာမ ဆရာတော်ဘုရားကြီးသည် ဝိနည်းစည်းမျဉ်း စည်းကမ်းနှင့် ကျောင်းတိုက်စည်းမျဉ်းတို့ကို အမြဲတမ်း အလေးအမြတ်ပြုလျက် ကိုယ်တိုင်လည်း လိုက်နာ၊ တပည့်များအားလည်း အတတ်နိုင်ဆုံး ကျင့်သုံးလိုက်နာစေ၏။ ဤသို့သော ဂုဏ်တို့ကြောင့် 'ပဏ္ဍိတာရာမ' ဟူသော တပည့်သည် ပဋိပတ္တိနယ်ပယ်၌ လူသိများခဲ့၏။

မူလ ပဏ္ဍိတာရာမရိပ်သာကို ကျောင်းဒကာကြီး ဦးသာထွန်းအောင်(ကွယ်လွန်)၊ ကျောင်းအစ်မကြီး ဒေါ်နီ(ကွယ်လွန်)နှင့် မိသားစုတို့က လှူဒါန်းခဲ့သည်။

ပဏ္ဍိတာရာမရိပ်သာကို တည်ထောင်ပြီး (၉)နှစ်အတွင်း ပဏ္ဍိတာရာမရိပ်သာခွဲများ ပြည်တွင်း၊ ပြည်ပ၌ တိုးပွားလာခဲ့သည်။

ပဏ္ဍိတာရာမ တောစခန်းရိပ်သာ (အင်းတကော်မြို့အနီး၊ ပဲခူးတိုင်း)၊ ပဏ္ဍိတာရာမရိပ်သာ (မော်လမြိုင်မြို့၊ မွန်ပြည်နယ်)၊ ပဏ္ဍိတာရာမရိပ်သာ (ပြင်ဦးလွင်၊ မန္တလေးတိုင်း)၊ လုမ္ဗိနီ–ပဏ္ဍိတာရာမ မက်ဒီတေးရှင်းစင်တာ(နီပေါနိုင်ငံ)တို့ဖြစ်သည်။

ပဏ္ဍိတာရာမ ဆရာတော်ဘုရားကြီး၏ ဩဝါဒခံဖြစ်သော

ပြည်ပရှိ ရိပ်သာခွဲများမှာ တထာဂတမက်ဒီတေးရှင်းစင်တာ (ကာလီဖိုးနီးယားပြည်နယ်၊ U.S.A)၊ မင်္ဂလာရာမဝိဟာရ (မေရီလင်း(ဒ်)ပြည်နယ်၊ U.S.A)၊ မနောမယရိပ်သာ (ဗန်ကူးပါးမြို့၊ ကနေဒါနိုင်ငံ)၊ မလေးရှား ဗုဒ္ဓစ်(စ်) မက်ဒီတေးရှင်းစင်တာ (ပီနန်မြို့၊ မလေးရှားနိုင်ငံ)၊ ဗလက်ကောင်း မက်ဒီတေးရှင်းစင်တာ (ကွာလာလန်ပူမြို့၊ မလေးရှားနိုင်ငံ)၊ ဝိပဿနာ မက်ဒီတေးရှင်းစင်တာ (စင်ကာပူနိုင်ငံ)၊ အင်တာနေရှင်နယ် ဗုဒ္ဓစ်(စ်)မက်ဒီတေးရှင်းစင်တာ (ကတ္တမန္ဒူမြို့၊ နီပေါနိုင်ငံ)နှင့် မဟာစည် ဓမ္မဖဲလိုးရှစ်(ပ်) မက်ဒီတေးရှင်းစင်တာ (ဘီးလင်းမြို့၊ အင်္ဂလန်နိုင်ငံ)တို့ ဖြစ်ကြသည်။

အစကောင်းခြင်းသည် အလယ်ကောင်းခြင်း၊ အဆုံးကောင်းခြင်းတို့အတွက် အကြောင်းအထောက်အပံ့ ဖြစ်နိုင်ပါသည်။ သို့သော် 'အစကောင်းမှ အနှောင်းသေချာ'သည်ဟု တရားသေ ပြောဆိုရန်ကား မဖြစ်နိုင်ပြီ။

အဘယ့်ကြောင့်ဆိုသော် အစက ကောင်းခဲ့သော်လည်း စည်းမျဉ်း၊ စည်းကမ်းများ မကောင်းမွန်ပါက စ၊ လယ်၊ ဆုံး ကောင်းဖို့ရန် အင်မတန်မှ ခက်ခဲနိုင်ပါသည်။

ထို့ကြောင့် ပဏ္ဍိတာရာမ ဆရာတော်ဘုရားကြီး၏ ဦးဆောင်လမ်းညွှန်မှုဖြင့် တိုးတက်၊ စည်ပင်၊ ပြန့်ပွားလာသော မူလ ပဏ္ဍိတာရာမ ရွှေတောင်ကုန်းသာသနာ့ရိပ်သာနှင့် အားလုံးသော ရိပ်သာခွဲများ၏ အနာဂတ်ခရီးလမ်းသည် ခိုင်မာသော စည်းမျဉ်း၊ စည်းကမ်းများ၌ လုံးဝ မှီတည်နေပါ၏။

စည်းမျဉ်းကောင်းလျှင် ရိပ်သာများ ဆက်လက်၍ တိုးတက်စည်ပင်မည်။ စည်းမျဉ်းအားနည်းခြင်းနှင့် လိုက်နာကျင့်သုံးမှု အပိုင်းများ အားနည်းနေမည်ဆိုလျှင် ရိပ်သာများလည်း ဆုတ်ယုတ်နိုင်သည်။

ပြုလုပ်သင့် ပြုလုပ်ထိုက်သည်များကို ကြိုတင်ပြုထားခြင်း မပြုဘဲ 'ပျက်စီးခါကျမှ သခေါ်ရသဘော' ဟူသော အတွေးအခေါ်မျိုးကို စာရေးသူအနေဖြင့် လက်မခံလိုပေ။

ဤသို့သော အခြေအနေများကြောင့် ပဏ္ဍိတာရာမ ဆရာတော်ဘုရားကြီး၏ တပည့်များအားလုံးသည် ဆရာတော်ဘုရားကြီး အားသွန်ခွန်စိုက် တည်ထောင်တော်မူခဲ့သော ရိပ်သာများအားလုံးအတွက် မယိမ်းမယိုင်ရလေအောင် အဘယ်သို့သော နည်းဖြင့် စောင့်ရှောက်သင့်သည်ကို ဆရာတော်ဘုရားကြီးထံတော်မှ လေးနက်သော ဩဝါဒတော်များကို အတူတကွ ခံယူထားသင့်ပေသည်။

ယခုအခါ ပဏ္ဍိတာရာမ ဆရာတော်ဘုရားကြီး၏ သက်တော်သည် ရှစ်ဆယ်ပြည့်ပြီ၊ သက်တော်ရှစ်ဆယ်ပြည့် အထိမ်းအမှတ် ပတ္တမြားရတုနှင့် ပဏ္ဍိတာရာမ ရွှေတောင်ကုန်းသာသနာ့ရိပ်သာ၏ ဆယ်နှစ်ပြည့် အထိမ်းအမှတ်သဘင်နှစ်ခုကို ပူးပေါင်း၍ ဆင်ယင်ကျင်းပသည့် ဤအခါမျိုး၌ ပြည်တွင်း၊ ပြည်ပရှိ တပည့်များနှင့် ယောဂီများအားလုံးကို အတူရှိစေချင်လှသည်။ ကျေးဇူးတော်ရှင် ဆရာတော်ဘုရားကြီး၏ ဩဝါဒတော်များကို အတူတကွ နာယူမှတ်သားစေချင်လှသည်။

ဩဝါဒတော်များကို အတူနာယူကြပြီး အချင်းချင်းခင်မင်သော အကြည့်၊ ရင်းနှီးသောအပြုံး၊ ပျူငှာသော အမူအရာ၊ ဖြူစင်သော နှလုံးသားတို့ဖြင့် ကြိုဆိုခြင်း၊ နှုတ်ခွန်းဆက်ခြင်း၊ အကျိုးပြုကိစ္စရပ်တို့ကို အကြံပေးခြင်း၊ ဆွေးနွေးခြင်း စသည်တို့ကို ပြုလုပ်ကြခြင်းဖြင့် ဤပတ္တမြားရတု၏ စစ်မှန်သော အနှစ်သာရ၊ ကောင်းမြတ်သော ရည်ရွယ်ချက်တို့သည် အဖိုးမဖြတ်နိုင်အောင် တန်ဖိုးရှိပေလိမ့်မည်။

နိဂုံးချုပ်အနေအားဖြင့် စာရေးသူ၏ ရင်တွင်းဆန္ဒကို ဤသို့ဖွင့်ဆိုချင်၏။ ''ဆရာတော်ဘုရားကြီး သက်တော်ရာကျော် ရှည်ပါစေ''

ဟူ၍လည်းကောင်း၊ ''ဆရာတော်ဘုရားကြီး ဦးစီးဦးဆောင်ပြုခဲ့သော ရိပ်သာများလည်း နောင်လာမည့် ရာစုနှစ်၊ ထောင်စုနှစ်များတိုင်အောင် စည်ပင်၊ ပြန့်ပွား၊ တည်တံ့ပါစေ''ဟူ၍ လည်းကောင်း ဆုတောင်းခြင်း၊ ဆန္ဒပြုခြင်း၊ မျှော်လင့်ခြင်းတို့ဖြင့် ...။



# အသိဉာဏ်ကို အခြေခံ၍ စဉ်းစားတွေးခေါ်ခြင်း

လူသားတစ်ယောက်၌ ကိုယ့်ကိုယ်ကို အထင်ကြီးတတ်သော စိတ်ထားမျိုးသည် သန္တေ(မွေးရာ)ပါ ဗီဇသတ္တိတစ်ခုဟု ဆိုနိုင်ပေသည်။ ကိုယ့်အတွေး၊ ကိုယ့်အကြံအစည်၊ ကိုယ့်စကား၊ ကိုယ့်အမူအရာများကိုလည်း အထင်တကြီး အထက်ဘဝင်ထိအောင် မြှင့်တင်ထားတတ်သည်။ ''ငါထင်သားပဲ'' ''ငါပြောသားပဲ'' ''ငါပြောတဲ့အတိုင်းပဲ ဖြစ်နေတာပဲ မဟုတ်လား''ဟု ကိုယ့်ကိုယ်ကို အခိုင်အမာ အတည်ပြု၍ ပြောကြားလေ့ရှိ၏။ အနောက်တိုင်း ဒဿနိကဗေဒ၌ အတ္တကို အလေးပေးလွန်းသော ဝါဒကို 'egoism-ကိုယ့်ကိုယ်ကို အထင်ကြီးခြင်း'နှင့် 'anthropocentric attitude လူသည် အဓိကကျဆုံး သတ္တဝါဖြစ်ခြင်း'ဟူသော ဝေါဟာရမျိုးကို သုံး၍ လူအကြောင်းကို နားလည်နိုင်စေရန် အဓိပ္ပါယ်အမျိုးမျိုးဖြင့် ဖွင့်ဆိုပြကြသည်။ အတ္တကြီးလွန်းသော လူသားများအတွက် အနတ္တသဘောကို နားလည်နိုင်ရန် မြတ်စွာဘုရားသည်ပင် တရားဓမ္မအမျိုးမျိုးကို ဟောကြားထားတော်မူခဲ့သည်။ ဤသို့ဆိုလျှင် ကျွန်ုပ်တို့၏ မွေးရာပါ ဤအတ္တဝါဒကို အဘယ်သို့ ခွာနိုင်ကြမည်နည်း။

ချာရန်ခက်လှသော 'အသက်ကောင်' 'ဝိညာဉ်ကောင်'ဟု အစွဲအလမ်းကြီးတစ်ခုအနေဖြင့် ယူဆထားသော ဤ အတ္တကောင်လေးကို မိမိတို့စိတ်အစဉ်မှ ဖယ်ရှားပစ်နိုင်ရန် အသိ(၂)မျိုးကို ရှေးဦးစွာ တင်ပြလို၏။ ဗုဒ္ဓဘာသာတရား၌ ဤအသိ (၂)မျိုးကို 'အဝိဇ္ဇာ'ဟု ခေါ်ဝေါ်သုံးစွဲကြ၏။ ထိုအသိ(၂)မျိုးကိုပင် အဝိဇ္ဇာ၏ သတ္တိနှစ်မျိုးဟုလည်း ခေါ်ဆိုနိုင်၏။ ထိုသတ္တိနှစ်မျိုးဟူသည်မှာ (၁)အမှန်တရားကို မသိခြင်းနှင့် (၂) အမှားတွေကို သိနေခြင်းပင် ဖြစ်၏။ လူသားတစ်ယောက် သိနေသည်ဆိုသော အသိမျိုးသည် အမှားတွေကို အမှန်ထင်လျက် သိနေခြင်းမျိုးလည်း ဖြစ်နိုင်သည်။ အမှန်တရားကို အမှားသိအနေမျိုးဖြင့် သိနေခြင်းမျိုးလည်း ဖြစ်နိုင်သည်။ အမှားကြာ၍ အမှန်ဟုထင်နေရသော အဖြစ်မျိုးတွေသည် လူ့ဘဝ၌ ဒုနှင့်ဒေး။ ထို့ကြောင့် အနောက်တိုင်းဒဿနိက ဆရာတစ်ဦးက ''ကျွန်ုပ်တို့ ငယ်စဉ်ခါက မှတ်သားခဲ့သော အရာများသည် အမှားတွေသာ များ၏။ ထို့ကြောင့် အမှန်တရားကို တွေ့ရှိအောင် ပြန်၍ သုံးသပ်ဆင်ခြင်သင့်သည်''ဟု ဆိုခဲ့၏။ မြတ်ဗုဒ္ဓ၏ တရားတော်၌ ဤအယူအဆမျိုးကို 'ဝိပလ္လာသ–ဖောက်ဖောက်ပြန်ပြန် သိမြင်ခြင်း'ဟု ခေါ်ဝေါ်သုံးစွဲ၏။ ဤကဲ့သို့ အမှန်တရားကို အမှန်အတိုင်း မသိနိုင်ခြင်းမှာ (၁) သညာဝိပလ္လာသ–အမှတ်မှားခြင်း၊ (၂) စိတ္တဝိပလ္လာသ–အသိမှားခြင်းနှင့် (၃) ဒိဋ္ဌိဝိပလ္လာသ–အယူမှားခြင်းဟူသော ဤအကြောင်းသုံးပါးကြောင့် ဖြစ်နိုင်သည်ဟု ဆို၏။ ဤအကြောင်းသုံးပါးကြောင့် ကျွန်ုပ်တို့တစ်တွေ၏ စိတ်အစဉ်၌ အသိမှား၊ အမြင်မှားမှုတွေ များစွာရှိနေ၏။ ဥပမာ–ဤခန္ဓာကိုယ်၌ အနိစ္စ–မမြဲခြင်းကို နိစ္စ–မြဲခြင်းဟု ထင်နေခြင်း၊ ဒုက္ခ–ဆင်းရဲခြင်းကို သုခ–ချမ်းသာခြင်းဟု ထင်နေခြင်း၊ အနတ္တ–အစိုးမရ၊ ငါကောင် အသက်ကောင်မဟုတ်ကို အတ္တ–အစိုးရခြင်း၊ငါကောင် အသက်ကောင်ဟု ထင်မှတ်ခြင်းနှင့် အသုဘ–မတင့်တယ်ခြင်းကို သုဘ–တင့်တယ်ခြင်းဟု

ထင်မှတ်နေခြင်းတို့ပင် ဖြစ်၏။ ဤအသိမှား၊ အမြင်မှားမှုတွေသည် ငယ်စဉ်အခါကစ၍ မှားခဲ့သော အမှားများပင် မဟုတ်ပါလား။

ဤအယူအဆများကို အခြေခံ၍ 'အတ္တကြီးလွန်းသော လူသား တစ်ယောက်အတွက်' လူသားတစ်ယောက်၌ ရှိသင့်ရှိထိုက်သော မေတ္တာ တရား၊ အကြင်နာတရားတို့သည် ထိုသူ၏ သန္တာန်၌ ခေါင်းပါးနေတတ် သည်။ ဥပမာ အာဃာတတရားကို မေတ္တာတရားနှင့် အယောင်ဆောင် လျက် မျက်နှာကို ပြုံးနိုင်သမျှ ပြုံးနိုင်အောင် ကြိုးစားနေသူတွေကိုလည်း ကျွန်ုပ်တွေ့ဖူးသည်။ ခက်ထန်သော စိတ်နှလုံးကို ကရုဏာမျက်နှာဖုံး စွပ်လျက် တည်ကြည်ခန့်ညားသော အမူအရာမျိုးရှိသော ရက်စက် ကြမ်းကြုတ်သော ပုဂ္ဂိုလ်များကိုလည်း ကျွန်ုပ်တွေ့ဖူးသည်။ ပေးတော့ မယောင်ယောင်နှင့် ယူပဲ ယူတတ်သော ပုဂ္ဂိုလ်မျိုး၊ ကူညီမယောင်ယောင် နှင့် အခွင့်အရေးကိုသာ ယူတတ်သော ပုဂ္ဂိုလ်မျိုးတွေကိုလည်း ကျွန်ုပ် တွေ့ဖူးပြီ။ ထိုထက်ပို၍ အသိခက်သော အရာများလည်း ရှိသေးသည်။ ထိုအရာကား 'အတ္တ လွန်သော မာယာ'မျိုးပင် ဖြစ်၏။ ထိုအတ္တများ သော မာယာရှင်၌ ဖြစ်လေ့ဖြစ်ထရှိသော သဘာဝတစ်ခုမှာ သူ့အမှားကို ဘယ်သောအခါမှ အမှားဟု ဝန်ခံပြောဆိုလိမ့်မည် မဟုတ်ပေ။

ဤသို့ဖြစ်ရခြင်း၏ မူလအကြောင်းရင်းမှာ သူကျင့်သုံးနေသော အတ္တဆန်သော မာယာမျိုး သူများ၌လည်း ရှိနေလိမ့်မည်ဟု တွေးထင် ယူဆထားသောကြောင့်ဖြစ်၏။ 'ကိုယ့်စိတ်နှင့်နှိုင်း ဘယ်မရိုင်း'ဟု မြန်မာ ဒဿနိက ပညာရှင်တို့ ပြောဆိုထားသည်လည်း ရှိ၏။ အနောက်တိုင်း ဒဿနိက၌လည်း ဤသို့ဆိုထား၏။ လူသားများသည် မိမိတို့ တွေ့ကြုံ ထားသော ခံစားမှု (သို့မဟုတ်) သိမှုကိုသာ အခြေခံ၍ တွေးထင်ယူဆ တတ်ကြသည်။ ဥပမာ-အနောက်တိုင်းသားများ ပြောဆိုသုံးနှုန်းသော "homeless people" အိုးမဲ့ အိမ်မဲ့ပုဂ္ဂိုလ်များဟူသော ဝေါဟာရ

စကားကို နိုင်ငံခြားဗဟုသုတမရှိသော မြန်မာတစ်ယောက် ကြားသည် ဆိုပါအံ့။ သူသည် ဤအရာကို ဤသို့တွေးထင်ပေလိမ့်မည်။ "ဩော်– သနားစရာပုဂ္ဂိုလ်တွေပဲ၊ လေးပင်တိုင် ဝါးတဲအိမ်လေးလောက်မျှမရှိ၊ ခြုံစရာ ဂုန်နီအိတ်စုတ်လေးမျှမရှိ၊ စားစရာမရှိ၊ သောက်စရာမရှိ သနား ပါဘိ"ဟု သူသိထားသော ဘဝတစ်ခု၏ အတွေ့အကြုံကို အခြေခံ၍ စဉ်းစားတွေးခေါ်ပေလိမ့်မည်။ အမှန်မှာမူ အခိုက်အတန့်အနေအထား မျိုးဖြင့် 'homeless'ဖြစ်နေရှာသော ပုဂ္ဂိုလ်မျိုးသည် ဟမ်ဘာဂါ (hamburger)ကို ဝဝလင်လင်စား၊ ကော်ဖီကို ဝဝလင်လင်သောက် လျက် မိုးလုံလေလုံနေရာ၌ စောင်ထူထူကို ဖိမ်နှင့်ခြုံလျက် အိပ်နိုင်သော 'homeless'ဘဝမျိုးကို မြန်မာတစ်ယောက်အတွက် သိချင်မှသိနိုင် ပေမည်။

တရားစကားနှင့်စပ်၍လည်း ဤသို့ပင်ဖြစ်၏။ နိဗ္ဗာန်ချမ်းသာကို တရားသဘောဖြင့် မသိမမြင်နိုင်သေးသော ပုထုဇဉ်ပုဂ္ဂိုလ်တစ်ယောက် အတွက် "နိဗ္ဗာန်ချမ်းသာကို ကိုယ်တိုင်သိမြင်သွားကြသော ပုဂ္ဂိုလ်များ၌ ပျော်ရွှင်မှုလည်း မရှိ၊ ချမ်းသာကို ခံစားမှုလည်း မရှိဟုဆိုလျှင် ငါတို့တော့ နိဗ္ဗာန်ကို မလိုချင်ရေးချ၊ မလိုချင်ပေါင်"ဟု ပြောဆိုကောင်း ပြောဆို ပေလိမ့်မည်။ အဘယ်ကြောင့်ဆိုသော် မိမိအတွေ့အကြုံကို အခြေခံ၍ သိထားသော လူသားတို့ရရှိနိုင်သော ချမ်းသာသုခမျိုးဆိုတာ အမြင် အာရုံ၊ အကြားအာရုံ၊ အနံ့အာရုံ၊ အစားအာရုံ၊ အတွေ့အထိအာရုံနှင့် အသိအာရုံမျိုးတို့မှသာ ရရှိနိုင်သည်။ ထိုအာရုံခြောက်မျိုးမှလွဲ၍ တရား အကျင့်ဖြင့် ရရှိနိုင်သော နိဗ္ဗာန်နှင့်စပ်သော စစ်မှန်သော ချမ်းသာသုခ မျိုးကို ပုထုဇဉ်တစ်ယောက်၏ အတွေးအမြင်ဖြင့် ဘယ်ပုံဘယ်နည်းနှင့်မျှ စဉ်းစား၍ ရနိုင်မည်မဟုတ်ပေ။

ကျွန်ုပ်တို့သည် ကိုယ့်စိတ်နှင့်နှိုင်း၍ တိုင်းတာသည့်အရာမျိုး၌

အထူးစဉ်းစားရပေတော့မည်။ ဥပမာ–အများအပေါ်၌ စိတ်ကောင်းထားသူ၊ စိတ်ကောင်းရှိသူတစ်ယောက်သည် အများကိုလည်း သူ့လိုပဲ စိတ်ကောင်းရှိသူ ဖြစ်မှာပဲဟု ယုံကြည်နေမိတတ်သည်။ ယုံကြည်မှုကို အခွင့်ကောင်းယူတတ်သောသူက သူ့အပေါ်၌ ရက်ရက်စက်စက် မညှာမတာပြုသွားသည့် အခါမျိုးနှင့် ကြုံတော့မှ 'ပြုရက်လေခြင်း'ဟု နောင်တရကြသည့် အဖြစ်မျိုးတွေလည်း ရှိတတ်သည်။ စိတ်ထားယုတ်ညံ့သူတစ်ယောက်သည် မြင်သူတကာ၌ သူလိုပင် စိတ်ထားမျိုး ရှိကြလိမ့်မည် အထင်နှင့် မြင်သူတကာအပေါ်၌ ကြိုတင်၍ အထင်သေး အမြင်သေး ဖြစ်နှင့်နေတာမျိုးလည်း ရှိတတ်သည်။ အမှန်ဖြစ်သင့်သည်မှာ မဆုံးနိုင်သော သံသရာဘုံခွင်၌ ကျွန်ုပ်၏ ကောင်းကွက်ကို သင်က လက်ခံကျင့်သုံး၍ သင်၏ကောင်းကွက်ကို ကျွန်ုပ်က လက်ခံကျင့်သုံးမည် ဆိုပါလျှင် သင်လည်း ကျွန်ုပ်ကို မြတ်နိုးနိုင်မည်၊ ကျွန်ုပ်လည်း သင့်ကို မြတ်နိုးနိုင်ပေလိမ့်မည်။ မြတ်နိုးသူအချင်းချင်း၏ နှလုံးသား၌ 'အတ္တ'ဆိုသည့် တစ်ကိုယ်ကောင်းစိတ်၊ အတ္တကို အခြေခံသည့် မာန်မာနတရားတို့သည် ကင်းတန်သလောက် ကင်းသွားပေလိမ့်မည်။ အတ္တ၊ မာန်မာနနည်းသော ပုဂ္ဂိုလ်၏ အသိဉာဏ်၌ စဉ်းစားတွေးခေါ် ကြံဆသည့်အရာမျိုးသည် အမှန်တရားဘက်ကို ပို၍ ဆက်နွယ်နီးစပ်နိုင်လေသည်။

ကျွန်ုပ် ယုံကြည်လက်ခံထားသည်မှာ လူသားတိုင်း၌ မွေးရာပါကောင်းမြတ်သော စိတ်ထားမျိုးလည်း ရှိထားပြီးဖြစ်ပါသည်။ သို့သော် အတ္တလွန်ကဲမှု၊ အတ္တကို ရှေ့တန်းတင်ထားမှု၊ အဝိဇ္ဇာထူထဲမှုများက လူသားတစ်ယောက်၌ရှိသော အဖိုးတန်အရည်အသွေးများကို တန်ဖိုးကျဆင်းအောင် ပြုလုပ်နေခြင်းဖြစ်သည်။ ဤသို့ဆိုလျှင် ကျွန်ုပ်တို့တစ်တွေသည် လူသားတို့၏ အကျိုးစီးပွားကို ဖျက်ဆီးတတ်သော 'အတ္တဝါဒ' မျိုးကို ဖယ်ရှားနိုင်ရန် သိမှုဝိဇ္ဇာဖြင့် နှိုင်းနှိုင်းချိန်ချိန် သုခမိန်အဖြစ်မျိုး

သို့ရောက်အောင် ကြိုးစားသင့်လှပေသည်။ ထိုသို့ဖြစ်နိုင်ရန် မိမိသိထား သော လက်တစ်ဆုပ်စာမျှသော အသိလေးကိုချည်း အခြေခံ၍ စဉ်းစား တွေးခေါ်မှုမျိုး မပြုဘဲ၊ စစ်မှန်သော တရားမှတ်ကျောက်ဖြင့် မိမိကိုယ် မိမိ၊ စစ်ဆေးခံနိုင်ရန် အမှားနည်းအောင် ကြိုးစားခြင်း၊ အမှန်များအောင် ကြိုးစားခြင်းဖြင့် လူ့အသိုင်းအဝိုင်း၌ လူတို့ လေးစားမြတ်နိုးနိုင်သော လူတစ်ယောက် ဖြစ်လာနိုင်သည်။ နောက်ဆုံးအနေနှင့် သင့်အား သတိ တစ်ခုကို ထပ်မံပေးပါရစေ။ ကျွန်ုပ်တို့ ငယ်စဉ်အခါက မှတ်သားထား သော အရာခပ်များများသည် အမှားမကင်းသော မှတ်သားမှုမျိုးဖြစ်၍ အမှန်တရားကို သင်ကိုယ်တိုင်တွေ့ရှိသည်အထိ သုံးသပ်ဆင်ခြင်၊ စဉ်းစား တွေးခေါ် ဆုံးဖြတ်အတည်ပြုနိုင်ပါစေဟု လူသားတိုင်း အတွေးသစ်၊ အမြင်သစ်ကို ရယူစေလိုသော ဆန္ဒမွန်ဖြင့် ...။



# ထေရဝါဒ သုံးဌာန

ကိုယ်တည်းတစ်ယောက်၊ ချမ်းသာရောက်ဖို့၊ ခုလောက်ကြိုး
ကုတ်၊ အားမထုတ်ဘူး၊ ဗုဒ္ဓမြတ်စွာ၊ သာသနာ၏၊ ရှေးခါဘိုးဘ၊
လက်ထက်ကလျှင်၊ ရသည့်တန်ခိုး၊ ထပ်မညှိုးဖို့၊ အားကြိုးမာန်တက်၊
ငါဆောင်ရွက်သည်၊ ဆက်လက်တည်တံ့ရုံသာတည်း။

(တစ်ဘဝသံသရာ၊ စာမျက်နှာ–၃၈၉)

ယနေ့တိုးတက်နေသော မျက်မှောက်ခေတ်ကာလဝယ်–

ကမ္ဘာအရပ်ရပ်ဆီသို့ လှမ်းမျှော်၍ ကြည့်လိုက်မည်ဆိုပါလျှင်
ခေတ်နှင့်ပြိုင်၍ တိုးတက်နေသော မြတ်ဗုဒ္ဓ၏ သာသနာတော်ကြီးသည်
လပြည့်ဝန်းကြီးကဲ့သို့ ထွန်းလင်းတောက်ပ ရွှန်းမြသာယာလျက်ရှိပေ
သည်။ မြတ်ဗုဒ္ဓ၏ စစ်မှန်သော တရားတော်အပေါ်၌ အနောက်တိုင်းသား
တို့ လက်ခံအတည်ပြု ယုံကြည်သက်ဝင်မှုများ တိုးတက်များပြားလျက်
ရှိကြောင်း သတင်းဆောင်းပါးများဖြင့် အားပါးတရ ဖော်ပြထားကြသည်
မှာလည်း အားရစရာပင်။

ဤကဲ့သို့ တိုးတက်မှုအပိုင်းကဏ္ဍမှနေ၍ ဖော်ပြထားသော
သတင်းဆောင်းပါးများကို ဖတ်ရှုကြရသော ထေရဝါဒဗုဒ္ဓဘာသာဝင်

သူတော်စင်အများစုတို့သည် 'ဖရဏာပီတိ ဂွမ်းဆီထိကဲ့သို့' နှစ်သက်ရွှင်မြူး ကြည်နူးမှုအပြည့်ဖြင့် ဝမ်းပန်းတသာ ရှိနေကြလိမ့်မည်ကို မြင်ယောင်နေမိပါသည်။

သို့သော် တိုးတက်မှုအပိုင်းကဏ္ဍတစ်ခုသာကြည့်၍ ရှေ့သို့မျှော်ပြီး ဝမ်းသာကြည်နူးနေရုံမျှဖြင့် သာသနာတော်အတွက် အကျိုးမကြီးနိုင်သေးပေ။ အခြားတစ်ဖက်မှလည်း နောက်သို့လှည့်၍ ဆုတ်ယုတ်မှုအပိုင်းကဏ္ဍကိုလည်း မျက်ခြည်မပြတ် ကြည့်ရှုဖို့ (လိုအပ်ပါက ပြုပြင်မွမ်းမံရန်) များစွာလိုအပ်နေပါသည်။ ဆုတ်ယုတ်မှုအပိုင်းကဏ္ဍ၏ အကြောင်းရင်းများကို သုံးသပ်၍ ဗုဒ္ဓသာသနာတော်အတွက် သာသနာတော်ဘက်မှ မားမားမတ်မတ် ရပ်တည်နိုင်ပြီး သာသနာတော်ဆုတ်ယုတ်ရခြင်း၏ အကြောင်းရင်းများကို ကာကွယ်ဟန့်တားဖို့က ပို၍အရေးကြီးနေပါသည်။ သည်တာဝန်ကား စစ်မှန်သော ဗုဒ္ဓဘာသာဝင်တိုင်း၏ အဓိကတာဝန်ပေတည်း။

ယနေ့မျက်မှောက်ခေတ်၌ ကမ္ဘာ့နိုင်ငံပေါင်းများစွာထဲမှ ထေရဝါဒ ဗုဒ္ဓဘာသာနိုင်ငံများကို လက်ချိုးရေတွက်ကြည့်မည်ဆိုလျှင် ရှားရှားပါးပါး သုံးနိုင်ငံမျှသာ ထူထူထောင်ထောင် ကျန်ရှိနေပေတော့သည် သာတည်း။

စစ်မှန်သော ဗုဒ္ဓသာသနာတော်ကြီးကို ကြံ့ခိုင်ယုံကြည်သော စိတ်ဓာတ်များဖြင့် မိမိကိုယ်ကို လုံးဝငဲ့ကွက်တော်မမူကြဘဲ ကိုယ်အား၊ ဉာဏ်အား၊ ဝီရိယအားများဖြင့် သတ္တဝါများအား မြတ်ဗုဒ္ဓ၏ တရားချမ်းသာတွေကို ရစေလိုသော စေတနာဓာတ်၊ မေတ္တာဓာတ်၊ ကရုဏာဓာတ်အပြည့်ဖြင့် ဗုဒ္ဓသာသနာတော်ကြီးကို အမြော်အမြင်ကြီးမားစွာ စောင့်ရှောက်တော်မူခဲ့ကြသော၊ စံလွန်တော်မူပြီးသော ဆရာတော်ကြီးများနှင့် သက်တော်ထင်ရှား ဆရာတော်၊ သံဃာတော်များ၏ ကြီးမား

သော ဂုဏ်ကျေးဇူးတော်များကား ဤထေရဝါဒသုံးဌာနအနေဖြင့် ဘယ်သို့သော နည်းစုံတို့ဖြင့်မျှ ပေးဆပ်ကုန်နိုင်ဖွယ် မရှိတော့ချေ။

ဟို ...မဝေးလှသော ဆဋ္ဌသင်္ဂါယနာခေတ်က ထေရဝါဒ ငါးဌာနရှိခဲ့သော်လည်း ယခုအခါ ထေရဝါဒနိုင်ငံ နှစ်နိုင်ငံမှာ သာသနာပျက်ပြုန်း၍ ဗုဒ္ဓသာသနာတော်ကြီး ကွယ်ခဲ့ရလေပြီ။ ထိုနိုင်ငံများ၌ရှိသော ကြီးကျယ်ထည်ဝါခံ့ညားသည့် စေတီပုထိုးများ၊ ရုပ်ပွားဆင်းတုတော်များ၊ ကျောင်းကန်ဇရပ် တန်ဆောင်းများသည် စောင့်ရှောက်သူကင်းမဲ့စွာဖြင့် မြေ၌လဲလျောင်း၍ ပျက်စီးနေပုံများမှာ မြင်ရသူအဖို့ ဝမ်းနည်းကြေကွဲစရာပင်။

ထို့ကြောင့် နိုင်ငံနှင့်ချီ၍ ပျောက်ကွယ်ခဲ့ရသော ဤနိုင်ငံများနှင့် လေးနက်စွာ ချိန်ထိုးနှိုင်းစာကြည့်မည်ဆိုပါလျှင် အနောက်နိုင်ငံများ၌ အနည်းငယ်မျှသာ တိုးတက်နေသော ဤသာသနာရေး အခြေအနေများကို အားရကြည်နူး ရွှင်မြူးဝမ်းသာလျက် ရောင့်ရဲနေရုံမျှဖြင့် သာသနာ့တာဝန်ကျေပွန်ပြီဟူ၍ အဘယ်မှာ ဆိုနိုင်ပါအံ့နည်း။

# ထေရဝါဒ သုံးဌာန

## ၁။ 'သီရိလင်္ကာ (သီဟိုဠ်)နိုင်ငံ

သီရိလင်္ကာနိုင်ငံ၌ ဗုဒ္ဓသာသနာတော် စတင်ရောက်ရှိသော အချိန်မှာ တတိယသင်္ဂါယနာတင်ပြီးနောက် ရှင်မဟာမောဂ္ဂလိပုတ္တတိဿ မထေရ်မြတ်သည် ကိုးတိုင်းကိုးဌာနသို့ သံဃာတော်များကို သာသနာပြုစေလွှတ်တော်မူခဲ့ရာမှအစ သီရိလင်္ကာနိုင်ငံ၌ ဗုဒ္ဓသာသနာတော် စတင်ထွန်းကားလာခဲ့လေသည်။

သီရိဓမ္မာသောကမင်းနှင့် ခေတ်ပြိုင် ဒေဝါနံပိယတိဿမင်း

လက်ထက်မှစ၍ သီဟိုဠ်မင်း အဆက်ဆက်တို့ ဗုဒ္ဓသာသနာတော်ကို သက်ဝင်ယုံကြည်မှု အပြည့်ဖြင့် ချီးမြှောက်ထောက်ပံ့လာခဲ့ကြသော ကြောင့် သီဟိုဠ်ကျွန်း၌ ဗုဒ္ဓသာသနာတော်သည် ဗုဒ္ဓပွင့်တော်မူရာ မဇ္ဈိမ ဒေသပြီးလျှင် ဒုတိယအထွန်းကားဆုံးနိုင်ငံ ဖြစ်ခဲ့လေသည်။ စတုတ္ထ သင်္ဂါယနာနှင့် အဋ္ဌကထာကျမ်းများစွာတို့သည် သီဟိုဠ်ကျွန်းတွင် နေလို လလို ထွန်းလင်းခဲ့ကြောင်းကို သမိုင်းက သက်သေထူလျက် ရှိပေသည်။

ထိုကဲ့သို့ ထေရဝါဒသာသနာအခြေအမြစ် ခိုင်ခံ့ခဲ့သော သီရိ လင်္ကာနိုင်ငံသည်ပင် ယခုအခါ ပရိယတ်၊ ပဋိပတ်စသော သာသနာရေး ဆိုင်ရာများနှင့် ဗုဒ္ဓဘာသာဝင်ပြည်သူအများစုတို့မှာ အဘက်ဘက်မှ အိုမင်းယိုယွင်းစပြုနေပြီဖြစ်၍ သီရိလင်္ကာနိုင်ငံသည် အနာဂတ် ဗုဒ္ဓ သာသနာတော်အတွက် အဘယ်မှာ ခိုင်ခံ့သည်ဟု ဆိုနိုင်ပါအံ့နည်း။

## ၂။ ထိုင်း(ယိုးဒယား)နိုင်ငံ

ထိုင်းနိုင်ငံသည် ဘုရင်များစိုးစံရာ နိုင်ငံတစ်နိုင်ငံဖြစ်၍ ရှေး ယခင် မြန်မာမင်းများကဲ့သို့ပင် ဗုဒ္ဓသာသနာတော်ကို သက်ဝင်ယုံကြည်မှု အပြည့်ဖြင့် သာသနာ့အသရေ မညှိုးရလေအောင် ပစ္စည်းလေးပါးဖြင့် ချီးမြှောက် ထောက်ပံ့လျက် ရှိပေသည်။ ထိုင်းနိုင်ငံ၌ ဗုဒ္ဓသာသနာတော် စတင်ရောက်ရှိချိန်မှာ မြန်မာနိုင်ငံတော်ကဲ့သို့ပင် တတိယသင်္ဂါယနာတင် ပြီး၊ ကိုးတိုင်း ကိုးဌာနသို့ သာသနာပြု စေလွှတ်တော်မူခဲ့သော အချိန်မှစ၍ သာသနာတော် ရောက်ရှိလာခဲ့ကြောင်း သိရှိခဲ့သည်။

ယခုအခါ ထိုင်းနိုင်ငံ၌ ထိုင်းဘုရင်မင်းမြတ်ကို ပစ္စည်းလေးပါး ဒါယကာအဖြစ် ခံယူစေ၍ သတ္တမသင်္ဂါယနာတင်ရန် ကြိုတင်ပြင်ဆင်မှု များ ပြုလုပ်နေကြောင်း သတင်းရရှိခဲ့ပေသည်။

သို့သော် ထိုင်းဘုရင်မင်းမြတ်သည် ဗုဒ္ဓသာသနာတော်ကို သက်ဝင်ယုံကြည်မှုအပြည့်ဖြင့် ချီးမြှောက်ထောက်ပံ့နေသော်လည်း နောက်လိုက်ပြည်သူ အများစုသည် ဗုဒ္ဓသာသနာတော်၌ မိရိုးဖလာ ကိုးကွယ်မှုလောက်သာရှိနေကြပြီး စစ်မှန်သော ယုံကြည်မှုဉာဏ်ဖြင့် သက်ဝင်ခိုင်ခံ့သော ယုံကြည်မှုများ အားနည်းလွန်းလှ၍ ဤထိုင်းနိုင်ငံ သည်လည်း အနာဂတ်ဗုဒ္ဓသာသနာတော်အတွက် အားကိုးအားထားပြု လောက်အောင် ခိုင်ခံ့လှသည်ဟု မဆိုသာသေးချေ။

## ၃။ မြန်မာနိုင်ငံ

မြန်မာနိုင်ငံ၌ ဗုဒ္ဓသာသနာတော် စတင်ရောက်ရှိလာသော အချိန်မှာ တတိယသင်္ဂါယနာတင်ပြီးနောက် ရှင်မဟာမောဂ္ဂလိ ပုတ္တတိဿ ရဟန္တာမထေရ်မြတ်သည် နောက်နောင်အခါ သာသနာတော်တည်ရစ် မည့် ဌာနတို့ကို စဉ်းစားဆင်ခြင်တော်မူ၍ ကိုးတိုင်း ကိုးဌာနသို့ သံဃာ တော်များကို သာသနာပြု စေလွှတ်တော်မူရာ သုဝဏ္ဏဘူမိဟု ထင်ရှား သော သထုံပြည်သည် တစ်ဌာနအဖြစ် ပါဝင်ခဲ့လေသည်။ ထိုအချိန်မှစ၍ မြန်မာပြည်သို့ သာသနာတော် စတင်ရောက်လာခဲ့ကြောင်း သမိုင်း အကျဉ်းကို သိနိုင်ပေသည်။

မြန်မာပြည်သည် ဗုဒ္ဓသာသနာတော်ကို သက်ဝင်ယုံကြည်သည့် အလျောက် မင်းအဆက်ဆက်၊ ပြည်သူအဆက်ဆက် သာသနာတော် ကြီးကို ချီးမြှောက်ထောက်ပံ့ခဲ့ကြသည်။ ပဉ္စမသင်္ဂါယနာနှင့် ဆဋ္ဌသင်္ဂါ ယနာတို့သည် မြန်မာပြည်၌ ထေရဝါဒသာသနာ အရှိန်အဟုန် မြင့်မား တိုးတက်ခဲ့ကြောင်း သမိုင်းက သက်သေထူလျက်ရှိပေသည်။

ယနေ့ မျက်မှောက်ခေတ်ကာလတွင် ပရိယတ္တိဘက်၌လည်း

ပိဋကသုံးပုံ နှုတ်ငုံဆောင်ဆရာတော်ကြီးများ၊ ပဋိပတ္တိဘက်၌လည်း ဓမ္မလမ်းကြောင်းအတိုင်း ကိုယ်တိုင် ကျင့်သုံး၍ ကိုယ်တိုင်တရားပြသနေကြသော ဆရာတော်ကြီးများကို မြန်မာပြည်တွင်း၌ ဖူးတွေ့နိုင်ကြ၍ မြန်မာပြည်သူပြည်သားများအတွက် သာသနာနှင့်စပ်လျဉ်းသော ဂုဏ်ယူစရာတစ်ရပ်ပင်။

ဤကဲ့သို့ အဘက်ဘက်မှ သာသနာတော်ကြီး တိုးတက်စည်ပင်ပြန့်ပွားနေသော မြန်မာနိုင်ငံသည်ပင်လျှင် သမိုင်းကြောင်းကို ပြန်၍ကြည့်သော် ဗုဒ္ဓသာသနာတော်သည် ငှက်ခါးပျံသကဲ့သို့ နိမ့်တုံမြင့်တုံရှိခဲ့ကြောင်းကို သိရှိနိုင်ပေသည်။

မှန်ပေသည်၊ ယခုအခါ မြန်မာပြည်တွင်း၌ သံဃာ့ဦးသျှောင်သံဃမဟာနာယကဆရာတော်ကြီးများ ဦးဆောင်၍ ဆရာနှင့်ဒကာလက်တွဲပြီး သာသနာတော်ကြီးကို အဘက်ဘက်မှ ဆုတ်ယုတ်မှု မရှိရလေအောင် ဦးဆောင်နေဆဲအချိန် ကာလမှာပင် နောက်လိုက်ပြည်သူအများစုသည် ဘာသာရေး အသိဉာဏ် အရည်အချင်း များစွာနိမ့်ကျနေပြီး၊ ရတနာသုံးပါးအပေါ် ထားရှိသော ကိုးကွယ်ယုံကြည်မှုများမိရိုးဖလာ ယုံကြည်မှု အဆင့်အတန်းလောက်သာ ရှိနေကြသည်ကိုဝမ်းနည်းစွာ တွေ့မြင်နေရ၍ မြန်မာပြည်သည်ပင် အနာဂတ်ဗုဒ္ဓသာသနာတော်ကြီးအတွက် ခိုင်ခံ့လှပါသည်ဟု အဘယ်သို့ ဆိုနိုင်ပါအံ့နည်း။

အနောက်တိုင်းများ၌ ဗုဒ္ဓသာသနာတော်ကြီး ထွန်းကားစပြုနေပြီဆိုသော ဆောင်းပါးများကို ဖတ်ရှုပြီး နှစ်သိမ့်ရောင့်ရဲ အားရကျေနပ်၍ မနေသင့်ပေ။ ပင်မဖြစ်၍ အမြစ်တွယ်ခိုင်ခံ့နေပြီဖြစ်သော ဤထေရဝါဒသုံးဌာန၌ သာသနာ့ပင်စည်ကြီး ယိမ်းယိုင်မသွားဖို့က ပို၍ အရေးကြီးနေပါသည်။ စွမ်းနိုင်သမျှ သာသနာ့ကိစ္စများကို ဆောင်ရွက်ကြရန် လိုအပ်ပါသည်။ ဗုဒ္ဓသာသနာတော်ကြီးကို ကာကွယ်စောင့်ရှောက်ကြပါရန်

လိုအပ်ပါသည်။

အလေးအနက်ထား၍ နိဂုံးချုပ်တင်ပြလိုသည်မှာ မိရိုးဖလာ ဗုဒ္ဓဘာသာဝင်အများစုသည် သာသနာတော်ကို နည်းအမျိုးမျိုးတို့ဖြင့် ဆုံးဖြတ်တတ်ကြသည်။ အချို့က သာသနာရေးကိစ္စများ၌ (လှူဒါန်းရေး၊ ရှင်ပြု၊ ရဟန်းခံ စသည်ဖြင့်) ပွဲလမ်းသဘင်များ ခြိမ့်ခြိမ့်သဲ ဆူညံမစဲ ဖြစ်နေသည်တို့ကို ကြားကြရ၊ မြင်ကြရပြီး သာသနာရေးနှင့် မလျော်သည့် ကိစ္စများ ကြားညှပ်ပါနေသည်တို့ကို သတိမမူမိကြဘဲ သာသနာ့အနှစ်သာရ ပြည့်ပြည့်ဝဝဖြင့် ဆောင်ရွက်ရေးထက် ဂုဏ်ပကာသန လိုချင်မှုတို့၊ နာမည်ရလိုမှုတို့ဖြင့် သာသနာတော်ကို ဆုံးဖြတ်တတ်ကြ၏။ မွန်မြတ်လှ၍ အဆင့်အတန်းမြင့် တန်ဖိုးရှိလှသော ဤဗုဒ္ဓသာသနာတော်ကြီးကို လေးလေးနက်နက် ယုံကြည်မှုတို့ဖြင့် တကယ်ကျင့်သုံးသင့် ကျင့်သုံးထိုက် မှီခိုအားထားမှု အပြည့်ထားပြီး၊ ကိုးကွယ်ဆည်းကပ်ထိုက်သည့် ဘာသာ သာသနာတော်ကြီးပါတကားဟု အလေးအနက် မထားကြဘဲ၊ လာဘ်လာဘပေါကြွယ်စေမှု၊ ရာထူးအာဏာ စည်းစိမ် ဂုဏ်သိန် တိုးတက်လိုမှု၊ ကျန်းမာရေး ချို့ယွင်းသည့် ရောဂါဝေဒနာရှင်များကလည်း နေထိုင်ကောင်းမွန် ကျန်းမာစေမှု စသည်တို့လောက်ဖြင့်သာ ပေါ့တန်စွာ သဘောထား၍ ဆည်းကပ်ကြ၏။

သာသနာတော်ကြီးကို တန်ဖိုးထား၍ လေးနက်စွာ ယုံကြည်ဆည်းကပ် ကိုးကွယ်သော ဗုဒ္ဓဘာသာဝင်ကောင်း တစ်ယောက်အနေဖြင့် ဤ မပြောပလောက်သော အားထားကိုးကွယ်မှုလေးလောက်ဖြင့် မတင်းတိမ် မရောင့်ရဲအပ်ရာ။ ထိုထက်မက အဆပေါင်းများစွာ တန်ဖိုးရှိသည့် အားထားကိုးကွယ်ဆည်းကပ်ရာရောက်အောင် မြတ်ဗုဒ္ဓ၏ အလိုတော်ကျအတိုင်း ရည်ရွယ်ချက် ကောင်းကောင်းဖြင့် ဒါနပြုခြင်း၊ သီလဆောက်တည်ခြင်း စသည်တို့အပြင် ကျင့်ကြံပွားများ အားထုတ်အပ်သော

တရားထူးတရားမြတ်များကို ကိုယ်တိုင်ကိုယ်ကျ သိမြင်လာအောင် လက်တွေ့ဆည်းပူး အားထုတ်ခြင်းတို့ဖြင့် စစ်မှန်သော ဗုဒ္ဓဘာသာဝင် အဖြစ် တစ်ဆင့်တိုး အရည်အသွေး မြှင့်တင်ပေးရန် လိုပေသေးသည်။

ဗုဒ္ဓဘာသာဝင် အများစုသည် သာသနာတော်ကို အဆောက် အအုံဖြင့် ဆုံးဖြတ်တတ်ကြသည်။ သာသနာ့ အဆောက်အအုံကြီးတွေ တိုးတက်နေမှ သာသနာတိုးတက်နေသည်ဟူ၍လည်း အမြင်ရှိနေကြ၏။ ထိုအမြင်ကို ရှင်းလင်းပြတ်သားစွာ သိမြင်နိုင်ရေးအတွက် တောင်မြို့ မဟာဂန္ဓာရုံဆရာတော်၏ သာသနာရေး ဩဝါဒမှ တစ်စိတ်တစ်ဒေသကို တင်ပြလိုက်ပါသည်။

''ယခုခေတ် ကြည့်လျှင် အင်ဒိုနီးရှားတို့၊ အာဖဂန်နီစတန်တို့ အစရှိတဲ့နိုင်ငံတွေ၊ အိန္ဒိယပြည်ကြီး တစ်ပြည်လုံးအနှံ့၊ ပါကစ္စတန် အစရှိတဲ့ ပြည်ကြီးများမှာ ကျောက်စာ သုတေသနဌာန အသီးသီးက ရှာဖွေတူးဖော်ကြရာ၊ တစ်ပြည်လုံးအနှံ့ ဗုဒ္ဓဆိုင်ရာ ရုပ်တုတော်များ၊ ပစ္စည်းများ၊ အဆောက်အအုံများ၊ စေတီကြီးများကို တွေ့မြင်ကြရသော် လည်း ပြည်သူအများမှာ ဗုဒ္ဓဘာသာဝင်ဟူ၍ မတွေ့နိုင်ရတော့လောက် အောင် ရှိနေပြီ မဟုတ်ပါလား။ အဲဒီတော့ သာသနာတည်ဖို့ဆိုတာ အဆောက်အအုံတွေ တိုးအောင်၊ ခံ့ညားအောင်၊ လှပအောင် ပြုနေခြင်း သည် အဓိကမဟုတ်၊ အများနားလည်နိုင်သော ပရိယတ္တိစာပေများ ပြန့်ပွားခြင်း၊ မှန်ကန်သော တရားတော်များကို လေ့လာနိုင်ခွင့်ရခြင်း၊ ကျင့်သုံးနေကြခြင်းသည်သာ ပဓာနဖြစ်တယ်''ဟူ၍ ....။



# နှုတ်စကားဖြင့် ကိုယ်တိုင်မမြွက်ကြားခဲ့သော်လည်း

မိမိ၏ ဘဝတစ်သက်တာ၌ အနန္တကျေးဇူးတော်ရှင် မဟာစည်ဆရာတော်ဘုရားကြီးကို နှစ်ကြိမ်မျှသာ နီးနီးကပ်ကပ် ဖူးမြော်ခဲ့ဖူးပါသည်။ တစ်ကြိမ်က ရဟန်းယောဂီအဖြစ်နှင့် မဟာစည်သာသနာ့ရိပ်သာကြီး၌ ဝိပဿနာတရား ပွားများအားထုတ်နေစဉ်က ကျေးဇူးတော်ရှင် မဟာစည်ဆရာတော်ဘုရားကြီး နိုင်ငံခြားတိုင်းပြည်များသို့ ဓမ္မဒူတခရီးကြွတော်မူခါနီး ဖလ်ယဉ်ဓမ္မာရုံကြီးအတွင်း၀ယ် ဝန်ဆောင်သံဃာတော်များ ရဟန်းယောဂီများ၊ အမျိုးသားယောဂီများနှင့် အမျိုးသမီးယောဂီများအား ဩဝါဒကထာ မြွက်ကြားခဲ့စဉ် အချိန်အခါက ဖြစ်ပြီး၊ နောက်တစ်ကြိမ်ကမူ ကျေးဇူးတော်ရှင် မဟာစည်ဆရာတော်ဘုရားကြီး စံလွန်တော်မူပြီး သုံးရက်မြောက်နေ့၌ မဟာစည်ဆရာတော်ဘုရားကြီး ရုပ်ကလာပ်တော်ကို ကြံတောသုသာန်သို့ ပို့ဆောင်၍ မီးမသဂြိုဟ်မီ ရုပ်

အလောင်းတော်ကို ဖူးမြော်လိုသူများ ဖူးမြော်နိုင်ရန် စံကျောင်းတော်ကြီးအတွင်း၌ ထားရှိစဉ်ကတစ်ကြိမ်၊ ဤနှစ်ကြိမ်သာ နီးနီးကပ်ကပ်ဖူးမြော်ခွင့်ရခဲ့ဖူးပါသည်။

သို့သော် အနန္တကျေးဇူးတော်ရှင် မဟာစည်ဆရာတော်ဘုရားကြီး၏ ဂုဏ်တော်၊ ကျေးဇူးတော်တို့ကို အမြဲအာရုံပြုလျက် မိမိပြုလုပ်နိုင်သော သာသနာ့တာဝန်ဝတ္တရားများကို စွမ်းအားရှိသမျှ ဆောင်ရွက်နေဆဲ ဖြစ်ပါသည်။ ဤနေရာ၌ ကျေးဇူးတော်ရှင် မဟာစည်ဆရာတော်ဘုရားကြီး၏ ဂုဏ်တော်၊ ကျေးဇူးတော်တို့ကို အာရုံပြု၍ ကြည်ညိုကြသည်ဟု ဆိုရာဝယ် တစ်ပါးနှင့်တစ်ပါး ကြည်ညိုရင်း အကြောင်းတရားများ တူညီချင်မှတူညီကြပေမည်။ မိမိအနေနှင့် ကျေးဇူးတော်ရှင် မဟာစည်ဆရာတော်ဘုရားကြီးအား ကြည်ညိုနေခြင်းမှာ အကြောင်းသုံးပါးရှိပါသည်။ နံပါတ်(၁)အကြောင်းက ဝိနည်းလေးစားတော်မူခြင်း၊ နံပါတ်(၂)အကြောင်းက ပညာဉာဏ်ကြီးမားတော်မူခြင်းနှင့် နံပါတ်(၃)အကြောင်းက အမြော်အမြင်ကြီးမားတော်မူခြင်းဟူသော ဤအကြောင်းသုံးပါးတို့ဖြစ်ပေသည်။

ကျေးဇူးတော်ရှင် မဟာစည်ဆရာတော်ဘုရားကြီး၏ အမြော်အမြင်ကြီးမားမှုနှင့်စပ်၍ လေ့လာသိရှိရသမျှတို့သည် အံ့မခန်းရှိလှပေသည်။ အနာဂတ်သာသနာတော်အတွက် အလားအလာကောင်း၍ စာတတ်၊ ပေတတ်၊ ပညာတတ်များဖြစ်ကြသော ဝိနည်းလေးစားသော တပည့်များကို စနစ်တကျ ချီးမြှောက်ပေးခြင်း၊ တပည့်သားသံဃာတော်များ စုစုစည်းစည်း၊ ညီညီညွတ်ညွတ်ဖြစ်စေရန် နာယကအဖွဲ့အစည်းများ (ရိပ်သာတွင်း နာယကအဖွဲ့၊ နိုင်ငံလုံးဆိုင်ရာ မဟာစည်နာယကအဖွဲ့နှင့် နယ်လှည့်ဓမ္မကထိကအဖွဲ့) စသည်ကို စနစ်တကျဖွဲ့စည်းစေ၍ အစဉ်အလာကောင်းများကို ထိန်းသိမ်းစောင့်ရှောက်စေခြင်းနှင့် သံဃာ

အဖွဲ့အစည်းများနှင့် လူအဖွဲ့အစည်းများကို 'ကျွန်းကိုင်းမှီ၊ ကိုင်းကျွန်းမှီ' အဖြစ်မျိုး အမြဲရှိနေစေရန် ခိုင်မာသော စည်းမျဉ်းစည်းကမ်းများကို စနစ်တကျရေးဆွဲထားခဲ့ခြင်းတို့ကို လေ့လာကြည့်ရှုခြင်းအားဖြင့် ကျေးဇူးတော်ရှင် မဟာစည်ဆရာတော်ဘုရားကြီး၏ အမြော်အမြင်ကြီးမားပုံတို့ကို သိရှိနိုင်ပေသည်။ ဤစည်းမျဉ်းစည်းကမ်းများအပြင် အခါအခွင့်သင့်တိုင်း မိန့်မြွက်တော်မူခဲ့သော ဩဝါဒတော်များသည် အသင်းအဖွဲ့ကြီးများကို စီမံအုပ်ချုပ်ရသော ရဟန်း၊ ရှင်၊ လူ၊ ယောဂီတို့အတွက် အတုယူစရာ၊ လိုက်နာစရာအချက်အလက်များကို တွေ့ရှိနိုင်ပါသည်။ ဤသို့သော အကြောင်းများကြောင့် အမြော်အမြင်ကြီးမားတော်မူသော ကျေးဇူးတော်ရှင် မဟာစည်ဆရာတော်ဘုရားကြီးကို မိမိကြည်ညိုနေခဲ့သည်မှာ စတင်ဖူးမြင်ခဲ့ရပြီးသည့်နေ့မှစ၍ ယနေ့ထက်တိုင်အောင်ပင်ဖြစ်၏။

## ဩဝါဒကထာအမျိုးအစား

အနန္တကျေးဇူးရှင် မဟာစည်ဆရာတော်ဘုရားကြီး၏ ကျေးဇူးတော်၊ ဂုဏ်တော်တို့ကို အခွင့်အခါသင့်တိုင်း အမှတ်ရလေ့ရှိသော မိမိသည် မဟာစည်ဆရာတော်ဘုရားကြီး၏ ဩဝါဒတော်များကိုလည်းကောင်း၊ တရားတော်များကိုလည်းကောင်း လေ့လာဖတ်ရှုလျက်ရှိရာ မဟာစည်ဆရာတော်ဘုရားကြီး၏ ဩဝါဒတော်အဖြစ် မှတ်တမ်းပြုစုရေးသားထားခြင်းမရှိသေးသော ဩဝါဒကထာတစ်ခုကို ရှာဖွေတွေ့ရှိခဲ့ပါသည်။ ဤစကားနှင့်စပ်၍ စကားအဓိပ္ပါယ်ရှုပ်ထွေးနိုင်သောကြောင့် ''ဘာကြောင့်ဩဝါဒကထာဟု သုံးစွဲရကြောင်း''ကို ဦးစွာပထမ တင်ပြလိုပါသည်။ မိမိ ဉာဏ်မီသမျှ တင်ပြရသော် ဩဝါဒအမျိုးအစား (၃)မျိုး (၃)စား ရှိနိုင်ပါသည်။ ထိုသုံးမျိုးတို့မှာ နံပါတ်(၁) ရေးသားဩဝါဒကထာ၊

နံပါတ်(၂) မြွက်ကြားသြဝါဒကထာ (တရားဟော ဓမ္မများ၌ ပါဝင်သော သြဝါဒကထာများနှင့် ဝိနည်းဆိုင်ရာသြဝါဒကထာများ)နှင့် နံပါတ်(၃) ရည်ညွှန်းသြဝါဒကထာ (စာဖြင့်လည်း မရေးသား၊ နှုတ်ဖြင့်လည်း မမြွက် ကြားသော်လည်း ကိုယ်တိုင်ပါဝင်ပြုလုပ်ခြင်းဖြင့် ရည်ညွှန်းဖော်ပြသော သြဝါဒကထာ)ဟူ၍ သုံးမျိုးရှိကြောင်း သိနိုင်ပေသည်။

ထိုသုံးမျိုးသော သြဝါဒတော်တို့တွင် တစ်နံပါတ်၊ နှစ်နံပါတ်တို့ နှင့် စပ်ဆိုင်သော သြဝါဒတော်မျိုးသည် တိုက်ရိုက်ရေးသား၊ တိုက်ရိုက် မြွက်ကြားထားသော သြဝါဒတော်များဖြစ်၍ ဒွိဟဖြစ်ဖွယ် မရှိသောကြောင့် ဤဆောင်းပါး၌ အထူးရေးသားတင်ပြစရာ မလိုကြောင်း သိနိုင်ပေသည်။ သို့သော် သုံးနံပါတ် သြဝါဒတော်အမျိုးအစားသည် တိတိကျကျ ရေး သားထားခြင်း၊ ဟောပြထားခြင်းမျိုး မရှိ၍ ကောက်ချက်ချရာ၌ နှစ်မျိုး နှစ်ခွ ဒွိဟဖြစ်စရာ အကြောင်းများ ရှိနေသောကြောင့် ဤဆောင်းပါး၌ အကျယ်ချဲ့၍ ရေးသားတင်ပြလိုပါသည်။

ဥပမာတစ်ခုကို တင်ပြရသော် ကျေးဇူးတော်ရှင် မဟာစည် ဆရာတော်ဘုရားကြီးသည် ဤသို့သော ကိစ္စမျိုးကို ပြုလုပ်နိုင်ကြောင်း တိုက်ရိုက်ခွင့်ပြုထားခြင်း မရှိသောကြောင့် ထိုကိစ္စမျိုးကို မပြုလုပ်သင့် ကြောင်း တစ်ဖက်မှ ထောက်ပြ၊ ပြောဆိုနိုင်သလို တခြားတစ်ဖက်မှ လည်း ဤသို့ပြောဆိုနိုင်ပေသည်။ ကျေးဇူးတော်ရှင် မဟာစည်ဆရာ တော်ဘုရားကြီးသည် ဤသို့သော ကိစ္စမျိုးကို တိုက်ရိုက်ရေးသား ပြော ဆို၍ ခွင့်ပြုထားခြင်းမျိုး မရှိသော်လည်း ထိုသို့သော ကိစ္စမျိုးကို ကိုယ်တိုင်ဆောင်ရွက်ခြင်း၊ ထိုထိုကိစ္စမျိုး၌ ကျွမ်းကျင်လိမ္မာသော ရဟန်းသံဃာတော်တို့အား ချီးမြှောက်ခြင်းစသော အကြောင်းများကို ထောက်ရှု၍ ထိုထိုကိစ္စမျိုးကို ပြုလုပ်နိုင်ကြောင်း သိရှိနိုင်ပေ၏။

## မဟာစည်ဆရာတော်ဘုရားကြီးနှင့် ဘာသန္တရစာပေ

အနန္တကျေးဇူးတော်ရှင် မဟာစည်ဆရာတော်ဘုရားကြီးသည် ရဟန်းတော်များ ဘာသန္တရစာပေ(အင်္ဂလိပ်စာ)သင်ကြားမှုနှင့် ပတ်သက်၍ ခွင့်ပြုခြင်း ရှိ/မရှိ တစ်စုံတစ်ယောက်မှ မေးမြန်းလာခဲ့သော် မှတ်တမ်း၊ မှတ်ရာများအရ တရားဝင်ခွင့်ပြုထားခြင်း မရှိဟုသာ ဖြေဆိုရပေတော့မည်။ ဤသို့ဆိုလျှင် ကျေးဇူးတော်ရှင် မဟာစည်ဆရာတော်ဘုရားကြီးသည် နာယကဆရာတော်များ၊ ဝန်ဆောင်သံဃာတော်များကို ဘာသန္တရစာပေ(အင်္ဂလိပ်စာ) သင်ကြားမှုကို လုံးဝခွင့်မပြုဟု ဆိုလိုရာ ရောက်ပါသလောဟု တစ်ဖန် မေးမြန်းခဲ့လျှင် ကျေးဇူးတော်ရှင် မဟာစည်ဆရာတော်ဘုရားကြီးသည် နာယကဆရာတော်များ၊ ဝန်ဆောင်သံဃာတော်များကို ဘာသန္တရစာပေ(အင်္ဂလိပ်စာ)ကို မသင်ရဟု အတိအလင်း တားမြစ်မိန့်ကြားချက်များ မရှိသောကြောင့် ရဟန်းတော်များ အင်္ဂလိပ်စာကို မသင်ထိုက်ဟူ၍လည်း မဆိုနိုင်ပါ။ ဤသို့ဆိုလျှင် ဝန်ဆောင်ရဟန်းတော်များ အင်္ဂလိပ်စာ သင်ကြားနေမှုနှင့်စပ်လျဉ်း၍ မဟာစည်ဆရာတော်ဘုရားကြီး၏ ဩဝါဒတော်အား အဘယ်သို့ မှတ်ယူရပါမည်နည်းဟု မေးခွန်းထုတ်စရာတစ်ခု ဖြစ်နေပါတော့၏။

ဤသို့သော အခြေအနေ၊ ဤသို့သော အမေးများအတွက် မိမိတို့သည် ကျေးဇူးတော်ရှင် မဟာစည်ဆရာတော်ဘုရားကြီးကိုယ်တိုင် အင်္ဂလိပ်စာ သင်/မသင်(သို့မဟုတ်) အင်္ဂလိပ်စာ ဖတ်/မဖတ် ဦးစွာပထမ လေ့လာသင့်ပေသည်။ ကျေးဇူးတော်ရှင် မဟာစည်ဆရာတော်ဘုရားကြီး၏ တစ်သက်တာမှတ်တမ်းများအရ မဟာစည်ဆရာတော်ဘုရားကြီးသည် အင်္ဂလိပ်စာကို ဖတ်နိုင်၊ ပြောနိုင်ကြောင်း သိရှိရပေသည်။ အမေရိကန်နိုင်ငံ သာသနာပြုခရီး ကြွရောက်တော်မူစဉ်က မဟာစည်ဆရာတော်

ဘုရားကြီးသည် တရားပွဲတစ်ခု၌ နိုင်ငံခြားသားများအား တရားတော်ကို အင်္ဂလိပ်လိုဖတ်၍ ဟောကြားတော်မူခဲ့ကြောင်း ဒကာကြီး ဦးချစ်မြိုင် (အငြိမ်းစားသံအမတ်ကြီး)ထံမှ တစ်ဆင့်စကား ကြားသိခဲ့ရဖူးပါသည်။ ထို့အပြင် ကျေးဇူးတော်ရှင် မဟာစည်ဆရာတော်ဘုရားကြီး ဟောကြားတော်မူခဲ့သော တရားတော်များကို အင်္ဂလိပ်ဘာသာပြန်ဆိုမှုအတွက် ဆရာတော်ဘုရားကြီးမှ ခွင့်ပြုတော်မူခဲ့သည့်အတွက် မဟာစည်ဆရာတော်ဘုရားကြီး၏ အင်္ဂလိပ်ဘာသာပြန် တရားတော်များ အနောက်နိုင်ငံ၊ အရှေ့နိုင်ငံများသို့ ပျံ့နှံ့ခဲ့ပေသည်။ အကျိုးတရားအနေဖြင့် အင်္ဂလိပ်ဘာသာစကားကို တတ်ကျွမ်းသူများသည် ထိုအင်္ဂလိပ်ဘာသာပြန် တရားစာအုပ်များကို ဖတ်ရှုလျက် မြန်မာပြည်သို့ လာရောက်တရားအားထုတ်ကြသော ယောဂီများသည်ပင် ထောင်နှင့်ချီ၍ ရှိနေပြီဖြစ်ကြောင်း သိရှိရပေသည်။ ဤသို့သော မှတ်တမ်းများကို ထောက်ထား၍ ကျေးဇူးတော်ရှင် မဟာစည်ဆရာတော်ဘုရားကြီးကိုယ်တိုင် မြတ်ဗုဒ္ဓ၏ တရားဓမ္မများကို နိုင်ငံခြားသားများအား အင်္ဂလိပ်လို ကိုယ်တိုင်ဟောကြားနိုင်ရန် အင်္ဂလိပ်စာကို ဖတ်ရှု၊ လေ့လာ၊ သင်ယူခဲ့ကြောင်း သိရှိနိုင်ပေသည်။

တစ်ဖန် နိုင်ငံခြားတိုင်းပြည်များသို့ သာသနာပြုခရီး ကြွရောက်တော်မူရာ၌ ဘာသန္တရစာပေ(အင်္ဂလိပ်စာ) တတ်ကျွမ်းသော သံဃာတော်များကို အထူးရွေးချယ်၍ ဆရာတော်ဘုရားကြီးနှင့်အတူ နိုင်ငံခြားတိုင်းပြည်များသို့ အတူတကွ ခေါ်ဆောင်သွားခြင်းကို ထောက်ရှု၍လည်း နာယကဆရာတော်များ၊ ဝန်ဆောင်သံဃာတော်များအား နိုင်ငံခြားသာသနာပြု လုပ်ငန်းများအတွက် အင်္ဂလိပ်စာကို အခွင့်အခါပေးခဲ့လျှင် သင်ယူထားကြရန် လိုအပ်ကြောင်း ရည်ညွှန်းသြဝါဒကထာအဖြစ် မှတ်သားသိရှိနိုင်ပေသည်။ ၁၉၇၉-ခု၊ မတ်လ၌ အမေရိကန်နိုင်ငံ၊ မက်ဆက်ချူးဆက်ပြည်နယ်၊ ဘာရီဝိပဿနာ ကမ္မဋ္ဌာန်းအဖွဲ့မှ ပင့်ဖိတ်

ချက်အရ ကျေးဇူးတော်ရှင် မဟာစည်ဆရာတော်ဘုရားကြီးနှင့်အတူ လိုက်ပါသွားခဲ့ကြသော သံဃာတော်များမှာ ၁။ ဒေါက်တာ ဘဒ္ဒန္တသီလာနန္ဒာဘိဝံသဆရာတော် (ထေရဝါဒဗုဒ္ဓသာသနာပြုတက္ကသိုလ်ပါမောက္ခချုပ်နှင့် မဟာစည်ရိပ်သာ ဩဝါဒါစရိယဆရာတော်)၊ ၂။ ဘဒ္ဒန္တဇနကာဘိဝံသဆရာတော် (ချမ်းမြေ့ရိပ်သာဆရာတော်)၊ ၃။ ဘဒ္ဒန္တကေလာသဆရာတော် (မင်္ဂလာရာမ၊ မေရီလင့်(ဒ်)-ပျံလွန်)၊ ၄။ ဦးအဂ္ဂဓမ္မနှင့် ကပ္ပိယအဖြစ် မော်လမြိုင်မြို့မှ ဦးမြသိန်းတို့ဖြစ်ကြောင်း သိရှိရပေသည်။

## ဘာသန္တရစာပေသင်ကြားမှုနှင့် ကျမ်းဂန်အယူအဆ

အနန္တကျေးဇူးတော်ရှင် မဟာစည်ဆရာတော်ဘုရားကြီးသည် စာပေကျမ်းဂန် နှံ့စပ်ကျွမ်းကျင်မှုနှင့်စပ်လျဉ်း၍ အထူးလေးစားထိုက်ကြောင်း၊ အထူးအံ့ဩဖွယ်ကောင်းကြောင်း ပညာရှင်များမှ ထုတ်ဖော်ချီးကျူးပြောဆိုကြသော မှတ်တမ်းများအရ သိရှိရပေသည်။ စာပေကျမ်းဂန် နှံ့စပ်ကျွမ်းကျင်တော်မူသော ကျေးဇူးတော်ရှင် မဟာစည်ဆရာတော်ဘုရားကြီးသည် စူဠဝါပါဠိတော်လာ''အနုဇာနာမိ ဘိက္ခဝေ သကာယ နိရုတ္တိယာ ဗုဒ္ဓဝစနံ ပရိယာပုဏိတုံ-ဘိက္ခုတို့၊ မိမိတို့၏ ဘာသာစကားဖြင့် မြတ်စွာဘုရား၏ စကားတော်ကို သင်ယူခြင်းငှာ ခွင့်ပြုတော်မူ၏'' ဟူသော ပါဠိတော်စကားကို သတိပြု၍ ရှုကြည့်မည်မှာ သေချာလှပေသည်။

အထက်ပါ ပါဠိတော်စကားကို ကောက်ချက်ချ၍ ပြရသော် မည်သူမဆို မိမိတို့တတ်ထားသော ဘာသာစကားဖြင့် မြတ်စွာဘုရား၏ စကားတော်ကို သင်ယူနိုင်ကြောင်း၊ ဟောပြောနိုင်ကြောင်းကို အတိ

အလင်း ထုတ်ပြထားပေသည်။ မြန်မာလို တတ်သူများက ဘုရားစကားကို မြန်မာလို သင်ယူနိုင်ပြီး၊ မြန်မာလိုပြောနိုင်၏။ တရုတ်လိုတတ်သူများက လည်း ဘုရားစကားကို တရုတ်လို သင်ယူနိုင်၊ ပြောနိုင်ပြီး၊ အင်္ဂလိပ်လို တတ်သောသူများကလည်း ဘုရားစကားကို အင်္ဂလိပ်လို သင်နိုင်၊ ပြော နိုင်၊ ရေးနိုင်ကြောင်းကို ပါဠိတော်စကားအရ သိရှိနိုင်ပေသည်။

ဤပါဠိတော်စကားနှင့်စပ်လျဉ်း၍ ဤနေရာ၌ တစ်စုံတစ် ယောက်က စောဒကတက်ဖွယ်ရှိလာနိုင်၏။ အင်္ဂလိပ်စာသည် မိမိတို့ တတ်ထားသော ဘာသာစကားမဟုတ်၍ ဘုရားစကားကို အင်္ဂလိပ်လို ဟောကြား၊ ပြသခြင်းသည် အထက်ပါ ပါဠိတော်စကားနှင့် လျော်ညီပါ မည်လော–ဟု မေးလာနိုင်ပါ၏။ အဖြေကား–အင်္ဂလိပ်စာသည် မိမိတို့ တတ်ထားသော ဘာသာစကားမဟုတ်သော်လည်း မိမိတို့ဘာသာစကား ဖြင့် သင်ယူထားသော ဘုရားစကားတော်များကို အင်္ဂလိပ်လိုတတ်ထား သော နိုင်ငံခြားသားများအား ဟောကြား၊ ပြသလိုလျှင် သူတို့တတ်ထား သော ဘာသာစကား(အင်္ဂလိပ်စာ)ကို သင်ယူထားမှသာ ဘုရားစကားကို နိုင်ငံခြားသားများအား အလွယ်တကူ ဟောကြား၊ ပြသပေးနိုင်မည် ဖြစ်ကြောင်း သိနိုင်ပေသည်။ ထို့အပြင် ''သဗ္ဗံ သုတမဓိယေထ၊ ဟိန မုက္ကဋ္ဌ မဇ္ဈိမံ–မည်သည့်စာပေမျိုးမဆို သင်သင့်သည်၊ ကျင့်တဲ့အခါ မှာသာ ဘုရားရှင်၏ ဒေသနာတော်အတိုင်း ကျင့်ရမည်''ဟူသော ဤ ကျမ်းဂန်စကားကို ထောက်ထား၍ တရားဟော၊ တရားပြနိုင်ရန်အလို့ ငှာ ရဟန်းတော်များ အင်္ဂလိပ်စာကို သင်ယူထားသင့်ကြောင်း မှတ်သား သင့်ပေသည်။

ဤသို့ဆိုလျှင် နိုင်ငံရပ်ခြား တိုင်းပြည်များသို့ သာသနာပြု ကြွရောက်တော်မူကြရန် သမ္မာဆန္ဒရှိတော်မူကြသော ရဟန်းတော်များ သည်လည်းကောင်း၊ နိုင်ငံခြားတိုင်းပြည်များသို့ ကြွရောက်ရန် ဆန္ဒ

မရှိကြသော်လည်း ကိုယ့်တိုင်း၊ ကိုယ့်ပြည်မှာပင်နေ၍ နိုင်ငံခြားသား များအား တရားဟော၊ တရားပြသရန် ဆန္ဒရှိတော်မူကြသော ရဟန်း တော်များသည်လည်းကောင်း နိုင်ငံခြားသားများအား ဗုဒ္ဓတရားတော် များကို ထိထိရောက်ရောက် ဟောကြားပြသလိုကြပါလျှင် အင်္ဂလိပ်စာ ကို မိမိတို့တတ်ထားသော ဘာသာစကားနီးနီး ကျွမ်းကျင်တတ်မြောက် အောင် သင်ယူထားသင့်ကြောင်း တိုက်တွန်းလိုပါသည်။

## နိဂုံးစကား

မြန်မာနိုင်ငံ၌ ရဟန်းတော်များ အင်္ဂလိပ်စာ သင်သင့်/မသင် သင့်ဟူသော ပြဿနာကို ရဟန်း၊ သံဃာတော်များ နှစ်ပေါင်းများစွာ အကြိတ်အနယ် ဆွေးနွေးခဲ့ကြရပေသည်။ နာမည်ကျော်လှသော မော်ဘီ အစည်းအဝေးကြီး၌ ရဟန်းတော်များ အင်္ဂလိပ်စာ+သင်္ချာသင်ကြားသင့် ကြောင်း၊ စာမေးပွဲများ၌ ပြဋ္ဌာန်းပေးသင့်ကြောင်းအဆိုကို ထိုအစည်း အဝေးကြီး၌ ပယ်မြစ်ခံခဲ့ရ၍၊ ရဟန်းတော်များ အင်္ဂလိပ်စာ သင်ကြား နိုင်ရေး အခွင့်အလမ်းများသည် ခြေတစ်လှမ်းနှေးခဲ့ရပြန်သည်။ ထို၏ အကျိုးဆက်အနေနှင့် ဆရာတော်၊ သံဃာတော်များ၊ ပစ္စည်းလေးပါး ဒါယကာ၊ ဒါယိကာမများ၏ စိတ်နှလုံး၌ ရဟန်းတော်များ အင်္ဂလိပ်စာ မသင်ရဟူသော အစွဲကြီးသည် အမှောင့်ပယောဂ ပူးဝင်ခံရသလို ရှိနေ ပြန်သောကြောင့် နောက်ထပ်ခြေတစ်လှမ်း နှေးကွေးခဲ့ရပြန်ပါသည်။ ယခုအခါ ထိုထိုသို့သော အခြေအနေများကို ပယ်ရှားနိုင်ခဲ့ပြီဖြစ်၍ နိုင်ငံ တော်ပရိယတ္တိသာသနာ့တက္ကသိုလ်ကြီး (ရန်ကုန်+မန္တလေး)များ၌လည်း ကောင်း၊ အပြည်ပြည်ဆိုင်ရာ ထေရဝါဒဗုဒ္ဓသာသနာပြုတက္ကသိုလ်ကြီး၌ လည်းကောင်း ရဟန်းတော်များအား အင်္ဂလိပ်စာကို သင်ကြား၊ ပို့ချ

ပေးနေပြီဖြစ်၍ ထေရဝါဒသာသနာ နိုင်ငံတကာသို့ ခြေတစ်လှမ်းတိုး၍ လှမ်းနိုင်ခဲ့ပြီဟု ဆိုရပေမည်။ ဤသို့ဝမ်းမြောက်ဖွယ် အခြေအနေများကို မြင်ရ၊ ကြားရ၊ သိရသော မိမိသည် ပြည်တွင်း၊ ပြည်ပ သာသနာတော်အတွက် ရင်၌ ပီတိတွေ ဝေဖြာနေမိပါတော့သတည်း။

